# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ

(၁၉၄၇ ခုနှစ်)

# မာတိကာ

# ဥပဒေနိဒါန်း

နယ်စပ်ဒေသများနှင့် ကယားနယ်များ အပါအဝင် မြန်မာနိုင်ငံတော်၏ နိုင်ငံသားများ ဖြစ်ကြသော ကျွန်ုပ်တို့သည် အချုပ်အခြာအာဏာ ပိုင်လွတ်လပ်သော မြန်မာနိုင်ငံကို အခိုင်အခံ့ အညီအညွတ်တည်ထောင်ရန် သန္နိဋ္ဌာန်ချ၍၎င်း။ တရားမျှတခြင်း၊ လွတ်လပ်ခြင်း၊ ညီမျှ ခြင်းတည်း ဟူသောလောကပါလတရားများကို အခြေပြုကာ၊ လူသတ္တဝါခပ်သိမ်းတို့၏ ငြိမ်းချမ်းသာယာရေးကို ခိုင်မြဲတည်တံ့အောင် ထိန်းသိမ်းရန် သန္နိဋ္ဌာန်ချ၍၎င်း၊ လူမှုဆက်ဆံရေး၊ တရားမျှတမှု၊ စီးပွားရေးတရားမျှတမှု၊ နိုင်ငံရေးတရားမျှတမှု၊ လွတ်လပ်စွာတွေးကြံနိုင်မှု၊ လွတ်လပ်စွာ ဖွင့်ဟ ရေးသားဖော်ပြနိုင်မှု၊ လွတ်လပ်စွာ ယုံကြည်နိုင်မှု၊ လွတ်လပ်စွာကိုးကွယ်နိုင်မှု၊ လွတ်လပ်စွာ ဘုရားကျောင်းကန်စသည်တို့သို့ သွားလာဝတ်ပြုနိုင်မှု၊ လွတ်လပ်စွာပရိယေသနရှာမှီးနိုင်မှု၊ လွတ်လပ်စွာ စည်းရုံး နိုင်မှု၊ လွတ်လပ်စွာပြုမူဆောင်ရွက်နိုင်မှု၊ အဆင့်အတန်း ညီမျှမှု၊ အခွင့်အလမ်းညီမျှမှု၊ တရားဥပဒေအရာတွင် ညီမျှမှုတို့ကို နိုင်ငံသား အားလုံးတို့ရရှိခံစားနိုင်စေခြင်းငှာ အခိုင်အမာ ခံဝန်ပြုရန် သန္နိဋ္ဌာန်ချ၍၎င်း၊ မြန်မာသက္ကရာဇ် ၁၃၀၉ ခုနှစ်၊ သီတင်းကျွတ်လဆန်းဆယ်ရက်နေ့ (ခရဇ်တော်သက္ကရာဇ် ၁၉၄၇ ခုနှစ်၊ စက်တင်ဘာ လနှစ်ဆယ့်လေးရက်နေ့) တွင်၊ ဤဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေကို ကျွန်ုပ်တို့၏ တိုင်းပြည် ပြုလွှတ်တော်၌ ကျွန်ုပ်တို့သည် လက်ခံ၍၊ ဥပဒေအဖြစ် အတည်ပြုပြီးလျှင်၊ ကျွန်ုပ်တို့အား နှင်းအပ်လိုက်သည်။

# အခန်း (၁)

## နိုင်ငံဖွဲ့စည်းပုံ

၁။ ။ မြန်မာနိုင်ငံသည်အချုပ်အချာအာဏာပိုင်သမတနိုင်ငံဖြစ်သည်။ ထိုနိုင်ငံကို၊ ``ပြည်ထောင်စု မြန်မာနိုင်ငံ`` ဟု ခေါ်ရမည်။

၂။ ။ အောက်ပါနယ်မြေများနှင့် နယ်များပါဝင်ကြသည့် မြန်မာနိုင်ငံတစ်နိုင်ငံလုံးသည်၊ ပြည်ထောင်စုမြန်မာနိုင်ငံတွင် ပါဝင်ရမည်။

(က) ၁၉၆၀ ပြည့်နှစ်၊ အောက်တိုဘာလ ၁ ရက်နေ့တွင် ပြည်ထောင်စု မြန်မာနိုင်ငံနှင့် တရုပ်ပြည်သူ့ သမ္မတနိုင်ငံတို့ချုပ်ဆိုကြ၍၊ ၁၉၆၁ ခုနှစ်၊ ဇန်နဝါရီလ ၄ ရက်နေ့တွင် စာချုပ်ဝင် နိုင်ငံနှစ်နိုင်ငံအစိုးရတို့ အသီးသီးနည်းလမ်းတကျ လက်ခံအတည်ပြုကြသော နယ်နိမိတ် စာချုပ် အပိုဒ် ၉ နှင့် ၁၀ပါ သတ်မှတ်ချက် တို့ကို အထောက်အထားပြု၍ ယခင်ဗြိတိသျှဘုရင်မင်းမြတ်ကိုယ်စား၊ မြန်မာပြည်ဘုရင်ခံ စီရင်အုပ် ချုပ်ခဲ့သော နယ်မြေအားလုံး၊

(ခ) ကယားပြည်နယ်၊ ထို့ပြင်

(ဂ) ရယူသည့်အခြားနယ်မြေများရှိလျှင်၊ ထိုအခြားနယ်မြေများ။ [၁]

၃။ ။ ပြည်ထောင်စုမြန်မာနိုင်ငံ၏ အချုပ်အချာ အာဏာသည် နိုင်ငံသားတို့၌ တည်သည်။

၄။ ။ ဥပဒေပြုမှုအာဏာ၊ အုပ်ချုပ်မှုအာဏာ၊ တရားစီရင်မှုအာဏာအားလုံးကို နိုင်ငံသားတို့ထံမှခံယူ၍၊ ဤဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအရ တည်ထောင် ခန့်အပ်သော ပြည်ထောင်စုမြန်မာ နိုင်ငံ၏ သို့တည်းမဟုတ် ပြည်ထောင်စုအဖွဲ့ဝင်များ၏ လုပ်ငန်းအဖွဲ့များနှင့် အရာရှိများကသော်၎င်း၊ ထိုအဖွဲ့များနှင့် အရာရှိများ၏ အခွင့်အာဏာအရသော်၎င်း၊ နိုင်ငံသားတို့၏ ကိုယ်စား၊ သုံးစွဲနိုင်ရမည်။

၅။ ။ ပုဒ်မ ၂၊ အပိုဒ်(က)ပါ ပြဋ္ဌာန်းချက်များကို အထောက်အထားပြု၍ ပဒေသရာဇ် ရှမ်းပြည်နယ်စုဟူ၍ ယခင်ကခေါ်တွင်ခဲ့သောနယ်မြေများနှင့် ဝ နယ်များကို ပြည်ထောင်စုမြန်မာနိုင်ငံအတွင်းတွင်၊ ပြည်ထောင်စုအဖွဲ့ဝင်တစ်ခုအဖြစ် ဖွဲ့စည်းရမည်။ ထိုပြည်ထောင်စုအဖွဲ့ဝင်ကို ဤမှနောင်အဖို့တွင် ``ရှမ်းပြည်နယ်``ဟုခေါ်ရမည်။[၂]

၆။ ။ပုဒ်မ ၂၊ အပိုဒ်(က)ပါ ပြဋ္ဌာန်းချက်များကို အထောက်အထားပြု၍ မြစ်ကြီးနားနှင့် ဗန်းမော်ခရိုင်များဟူ၍ ယခင်ကခေါ်တွင်ခဲ့သောနယ်မြေများကိုပြည်ထောင်စု မြန်မာနိုင်ငံအတွင်းတွင်၊ ပြည်ထောင်စုအဖွဲ့ဝင်တစ်ခုအဖြစ် ဖွဲ့စည်းရမည်။ ထိုပြည်ထောင်စုအဖွဲ့ဝင်ကို ဤမှနောင်အဖို့တွင် ``ကချင်ပြည်နယ် ``ဟုခေါ် ရမည်။[၃]

၇။ ။ ကန္တာရဝတီ၊ ဘောလခဲနှင့် ကြယ်ဖိုးကြီး တို့ပါဝင်သည့် ကယားနယ်များဟု ယခင်ကခေါ်တွင် ခဲ့သော နယ်မြေများကို၊ ပြည်ထောင်စုမြန်မာ နိုင်ငံအတွင်း တွင် ပြည်ထောင်စုအဖွဲ့ဝင်တခုအဖြစ်၊ ဖွဲ့စည်းရမည်။

၁ (၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၃။)ဖြင့်ပြင်ဆင်

၂ (၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၃။)ဖြင့်ပြင်ဆင်

၃ (၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၃။)ဖြင့်ပြင်ဆင်

ထိုပြည်ထောင်စုအဖွဲ့ဝင် ကို ဤမှနောင်အဖို့တွင် ''ကယားပြည်နယ်'' ဟု ခေါ်ရမည်။

၈။ ။ပုဒ်မ၁၈၀ နှင့် ၁၈၁ ရှိပြဋ္ဌာန်းချက်များနှင့်မဆန့်ကျင်စေဘဲ၊ ပြည်ထောင်စုမြန်မာနိုင်ငံရှိကျန်နယ်မြေအားလုံးနှင့် သက်ဆိုင်သော ဥပဒေပြုမှုအာဏာ၊ အုပ်ချုပ်မှုအာဏာ၊ တရားစီရင်မှုအာဏာ အားလုံးကို၊ ပြည်ထောင်စုမြန်မာနိုင်ငံ၏ လုပ်ငန်းအဖွဲ့များနှင့် အရာရှိ များကသာလျှင်သော်၎င်း၊ ထိုအဖွဲ့များနှင့် အရာရှိများ၏ အခွင့်အာဏာအရ သာလျှင်သော်၎င်း၊ သုံးစွဲနိုင်ရမည်။[၁]

## အခန်း (၂)

## မူလအခွင့်အရေးများ

၉။ ။ဤအခန်းနှင့်အခန်း(၃)၊ အခန်း ၄ တို့တွင် '' နိုင်ငံတော်'' ဟူသော စကား၏ဆိုလိုရင်းမှာရှေ့နောက်စကားတို့၏အဓိပ္ပါယ်ကိုထောက်၍ ပြည်ထောင်စုနိုင်ငံ၏ သို့တည်းမဟုတ် သက်ဆိုင်ရာ ပြည်ထောင်စုအဖွဲ့ဝင်၏ အုပ်ချုပ်မှု အခွင့်အာဏာကို၎င်း၊ ဥပဒေပြုမှုအခွင့်အာဏာကိုသော်၎င်း၊ ဆိုလိုသည်။

## နိုင်ငံသားဖြစ်မှု။

၁၀။ ။ ပြည်ထောင်စုမြန်မာနိုင်ငံတဝန်းလုံးတွင် နိုင်ငံသားဟူ၍ တမျိုးတည်းသာ ရှိရမည်။ ဆိုလိုရင်းမှာ ပြည်ထောင်စု အဖွဲ့ဝင်များ၏ နိုင်ငံသားဟူ၍အသီးအခြားမရှိရ။ ပြည်ထောင်စုမြန်မာနိုင်ငံသားဟူ၍သာရှိရမည်။

၁၁။ ။ (က) မြန်မာတိုင်းရင်းသားတမျိုးမျိုးတွင်ဖြစ်သော သို့တည်းမဟုတ် ဖြစ်ခဲ့သော မိဘနှစ်ပါးမှမွေးဖွားသူတိုင်း သည်၎င်း၊

(ခ) မြန်မာတိုင်းရင်းသားတမျိုးမျိုးတွင်ဖြစ်သော သို့တည်းမဟုတ် ဖြစ်ခဲ့သောဘိုးဘွားများအနက် အနည်းဆုံး တဦးမှ ပြည်ထောင်စုနိုင်ငံတွင် ပါဝင်လတတ့်သောအာဏာပိုင်နက်အတွင်း၌ မမွေးဖွားသူတိုင်းသည်၎င်း၊

(ဂ) ပြည်ထောင်စုနိုင်ငံ၏ နိုင်ငံသားဖြစ်သော သို့တည်းမဟုတ်ဤအခြေခံဥပဒေအာဏာတည်သည့် နေ့တွင် အသက်ရှင်နေသည်ဖြစ်ပါက တိုင်းရင်းသားအဖြစ်ကိုရယူခွင့် ရှိသောမိဘနှစ်ပါးမှ ပြည်ထောင်စုနိုင်ငံတွင်ပါဝင်လတတ့်သောအာဏာပိုင်နက်အတွင်း၌ မမွေးဖွားသူတိုင်းသည်၎င်း၊

(ဃ) ဗြိတိသျှဘုရင်မင်းမြတ်၏အာဏာပြန့်ရာနယ်မြေတခုခုတွင် မမွေးဖွားခဲ့သည်ဖြစ်၍၊ ဤအခြေခံဥပဒေစတင်အာဏာတည်သည့်နေ့မှ အထက်၊ သို့တည်းမဟုတ် ၁၉၄၂ ခု၊ ဇန်နဝါရီလ ၁ ရက်နေ့မှ အထက်အခြားမဲ့သော ဆယ်နှစ်အတွင်းရှစ်နှစ် အောက်မယုတ်သော ကာလအဖို့ ပြည်ထောင်စု နိုင်ငံတွင်ပါဝင်လတတ့်သောအာဏာပိုင်နက်အတွင်း၌ နေထိုင်ခဲ့ဘူးပြီးလျှင်၊ ပြည်ထောင်စု နိုင်ငံအတွင်းတွင်ထာဝစဉ်နေထိုင်ရန်ကြံရွယ်ခဲ့သည်ဖြစ်၍၊ထို့ပြင် တရားဥပဒေဖြင့် သတ်မှတ်သော အချိန်အတွင်းတွင် ထိုသို့သတ်မှတ်သောနည်းလမ်းနှင့် အညီပြည်ထောင်စု နိုင်ငံသားအဖြစ်ရွေးချယ်ခြင်း ကိုထုတ်ဖေါ်သူတိုင်းသည်၎င်း ပြည်ထောင်စုမြန်မာနိုင်ငံ၏နိုင်ငံသား ဖြစ်ရမည်။

၁၂။ ။ နိုင်ငံသားဖြစ်ခြင်းသဘော၊ နိုင်ငံသားဖြစ်ခြင်းသဘောတို့နှင့်စပ်လျဉ်း၍ ကျော်ကန်

၁ (၁၉၅၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၆၂။)ဖြင့်ပြင်ဆင်

သင့်မြတ်သည်ဟုထင်မြင်သည့်အတိုင်း တရားဥပဒေများကို ပြုနိုင်သော ပါလီမန်၏ အာဏာသည်၊ ပုဒ်မ ၁၁ ရှိ ပြဋ္ဌာန်းချက်ကြောင့်ယုတ်လျော့ခြင်းမဖြစ်ရ။ ထို့ပြင် ထို့ကဲ့သို့သော တရားဇဥပဒေတခုခုသည်၊ ပုဒ်မ ၁၁ တွင် မပါမဝင်သေးသော လူအမျိုးအစားများကို နိုင်ငံသားအဖြစ်ဖြင့် လက်ခံရန်သော်၎င်း၊ လက်ရှိဖြစ်သော လူအမျိုးအစားများကို နိုင်ငံသားအဖြစ်မှရပ်စဲစေရန်သော်၎င်း၊ ပြဋ္ဌာန်းနိုင်သည်။

## ညီမျှမှုအခွင့်အရေးများ

၁၃။ ။ ဇာတိမရွေး၊ ကိုးကွယ်ရာဘာသာမရွေး၊ ယောက်ကျားမိန်းမမရွေး၊ လူမျိုးမရွေး၊ နိုင်ငံသားဟူသမျှသည်၊ နိုင်ငံတော်တရားဥပဒေအရာတွင် အညီအမျှသာဖြစ်သည်။ ဆိုလိုရင်းမှာ နိုင်ငံသားတဦးနှင့်တဦးကို သို့တည်းမဟုတ် နိုင်ငံသားလူတန်းစား တစားနှင့်တစားကို တဖက်သက် သဘောအတိုင်း ခွဲခြားခြင်းမပြုရ။

၁၄။ ။ ပြည်သူ့ဝန်ထမ်းဆိုင်ရာရာထူးတို့၌၎င်း၊ အလုပ်လုပ်ကိုင်မှု၊ ကုန်သွယ်ရောင်းဝယ်မှု၊ စီးပွားရှာမှု၊ အတတ်ပညာနှင့် အသက်မွေးမှုတို့၌၎င်း၊ နိုင်ငံသားအားလုံးသည် ညီမျှသော အခွင့်အလမ်း ကိုရရှိရမည်။

၁၅။ ။ မိန်းမများသည် တူညီသောအလုပ်အတွက် ယောက်ကျားတို့ရသော လခမျိုးကိုရနိုင်ရမည်။

## လွတ်လပ်မှုအခွင့်အရေးများ။

၁၆။ ။ တရားဥပဒေအရမဟုတ်လျှင်၊ မည်သည့်နိုင်ငံသားမျှ မိမိ၏လွတ်လပ်မှုကို ရုပ်သိမ်းခြင်း မခံစေရ။ မိမိ၏နေအိမ်အတွင်းသို့ အဝင်ခံရခြင်း၊ ပစ္စည်းသိမ်းခံရခြင်းမရှိစေရ။

၁၇။ ။တရားဥပဒေနှင့်၎င်း၊ ငြိမ်ဝပ်ပိပြားရေးနှင့်၎င်း၊ ပြည်သူ့ကိုယ်ကျင့်တရားနှင့်၎င်း မဆန့် ကျင်လျှင်၊ နိုင်ငံသားများသည် အောက်ပါအခွင့်အရေးများကိုလွတ်လပ်စွာ သုံးစွဲနိုင်ရမည်။

(က) မိမိတို့၏ယုံကြည်ချက်၊ ထင်မြင်ချက်တို့ကို လွတ်လပ်စွာထုတ်ဖော်ပြောဆိုနိုင်သော အခွင့်အရေး။

(ခ) လက်နက်မပါဘဲ ငြိမ်းချမ်းစွာစုဝေးနိုင်သော အခွင့်အရေး။

(ဂ) အသင်းများနှင့် အသင်းစုအဖွဲ့များကို ဖွဲ့စည်းနိုင်သော အခွင့်အရေး။ သို့ရာတွင် ရည်ရွယ် ချက်ဖြင့်သော်၎င်း၊ ဆောင်ရွက်မှုဖြင့်သော်၎င်း ဤအခြေခံဥပဒေကို ပျက်ပြားစေရန် ကြံရွယ်သော သို့တည်းမဟုတ် ပျက်ပြားမည့်အကြောင်းဖြစ်စေသောအသင်း၊ အသင်းစုအဖွဲ့နှင့် အစည်းအရုံးမျိုးကိုမူကား တားမြစ်သည်။

(ဃ) ပြည်ထောင်စုနိုင်ငံအတွင်းတွင် မည်သည့်နေရာ၌မဆို နေထိုင်အခြေစိုက်နိုင်သော၊ ပစ္စည်း ရယူ ပိုင်ဆိုင်နိုင်သော၊ အလုပ်လုပ်ကိုင်နိုင်သော၊ ကုန်သွယ်ရောင်းဝယ်နိုင်သော၊ စီးပွားရှာနိုင်သော၊ အတတ်ပညာဖြင့် အသက်မွေးနိုင်သောအခွင့်အရေး။

၁၈။ ။ပြည်ထောင်စုနိုင်ငံတရားဥပဒေ၏ စည်းမျဉ်းသတ်မှတ်ချက်ကိုလိုက်နာ၍၊ ပြည်ထောင်စု အဖွဲ့ဝင်များတွင် ကူးသန်းရောင်းဝယ်ခြင်း၊ ကူးလူးဆက်ဆံခြင်းတို့သည် လွတ်လပ်ရမည်။

ခြွင်းချက်။ ။သို့ရာတွင် ပြည်ထောင်စုအဖွဲ့ဝင်တို့သည် ငြိမ်ဝပ်ပိပြားရေးအတွက်သော်၎င်း၊ ပြည်သူ့ကိုယ်ကျင့် တရားအတွက်သော်၎င်း၊ ပြည်သူ့ကျန်းမာရေးအတွက်သော်၎င်း၊ ပြည်သူ့လုံခြုံရေး

အတွက်သော်၎င်း၊ လျော်ကန်သင့်မြတ်သော ချုပ်ချယ်ချက်စည်းကမ်းများကို တရားဥပဒေဖြင့် ပြဋ္ဌာန်း နိုင်သည်။

၁၉။ ။ (က) လူအရောင်းအဝယ်ပြုခြင်း။

(ခ) တရားဥပဒေအရ အပြစ်ဒဏ်ပေးခြင်းကိုခံရသဖြင့်၊ အလုပ်ဒဏ်ကိုထမ်းဆောင်ခိုင်းခြင်း မှတပါး၊ နိုင်ထက်စီးနင်းခိုင်းခြင်းနှင့် အလိုဆန္ဒမရဘဲ ကျေးကျွန်သဖွယ်ခိုင်းခြင်းတို့ကို တားမြစ်သည်။

ရှင်းလင်းချက်။ ။ ဇာတိအားဖြင့်သော်၎င်း၊ လူမျိုးအားဖြင့်သော်၎င်း၊ ကိုးကွယ်ရာဘာသာအားဖြင့်သော်၎င်း၊ လူတန်းစား အားဖြင့်သော်၎င်း၊ ခွဲခြားခြင်းမပြုဘဲ၊ ပြည်သူ့အကျိုးငှာ မလုပ်မနေရသော အလုပ်မျိုးကို လုပ်စေရန် နိုင်ငံတော်၏တာဝန်ချထားခြင်းကိုမူကား ဤပုဒ်မရှိစကားကြောင့် အတားအဆီးမရှိစေရ။

## သာသနာရေးဆိုင်ရာအခွင့်အရေးများ။

၂၀။ ။ ငြိမ်ဝပ်ပိပြားရေးနှင့်သော်၎င်း၊ ပြည်သူ့ကိုယ်ကျင့်တရားနှင့်သော်၎င်း၊ ပြည်သူ့ကျန်းမာရေးနှင့်သော်၎င်း၊ ထို့ပြင် ဤအခန်းရှိအခြားပြဋ္ဌာန်းချက်တို့နှင့်၎င်းမဆန့်ကျင်လျှင် လူခပ်သိမ်းတို့သည် သာသနာရေးတွင် လွတ်လပ်စွာ ယူဆနိုင်သောအခွင့်အရေး၊ လွတ်လပ်စွာ ကိုးကွယ်ဆောက်တည်နိုင်သော အခွင့်အရေး၊ လွတ်လပ်စွာသင်ကြားနိုင်သောအခွင့်အရေး[၁] တို့ကို အညီအမျှရရှိရမည်။

ရှင်းလင်းချက် ၁။ ။ဘာသာရေးဆိုင်ရာ ကိုးကွယ်ဆောက်တည်မှုနှင့် ဆက်စပ်နေစေကာမူ၊ ထိုသို့ဆက်စပ်နေသော စီးပွားရေး၊ ဘဏ္ဍာရေး၊ နိုင်ငံရေးနှင့် အခြားလောကီရေး ဆောင်ရွက်မှုတို့ကို အထက်ပါအခွင့်အရေးတွင် မပါဝင်စေရ။

ရှင်းလင်းချက် ၂။ ။ဤပုဒ်မတွင် ထိုသို့လွတ်လပ်သော အခွင့်အရေးများကိုပေးထားသော်လည်း၊ ပြည်သူ့အကျိုးကိစ္စ၊ ပြုပြင်ရေးကိစ္စတို့အတွက် နိုင်ငံတော်၏တရားဥပဒေပြုခြင်းကို မတားမြစ်ရ။

ခြွင်းချက်။ ။ သို့ရာတွင် မိဘ၊ သို့မဟုတ် အုပ်ထိန်းသူတို့၏စာဖြင့်ရေးသားထားသော ကြိုတင်သဘော တူညီချက်ကိုမရရှိဘဲ၊ ကျောင်းများတွင် မည်သည့်အသက် မပြည့်သေးသူကိုမျှ ၎င်း၏ မိဘကိုးကွယ်သည့်ဘာသာမဟုတ်သည့် မည်သည့် ဘာသာကိုမျှ သင်ကြားခြင်းမပြုရ။[၂]

၂၁။ ။ (၁) ဗုဒ္ဓဘာသာ သာသနာတော်သည်၊ နိုင်ငံတော်၏နိုင်ငံသားအများဆုံးကိုးကွယ်ရာ၊ ဘာသာကြီး ဖြစ်သည့်အားလျော်စွာ နိုင်ငံတော်ဘာသာသာသနာဖြစ်စေရမည်။[၃]

(၂) နိုင်ငံတော်သည် အစ်စလာမ်ဘာသာ သာသနာ၊ ခရိယာန်ဘာသာ သာသနာ၊ ဟိန်ဒူ ဘာသာ သာသနာနှင့် နတ်ကိုးကွယ်သောဘာသာတို့ကို ဤအခြေခံဥပဒေအာဏာတည်သောနေ့၌ နိုင်ငံတော် တွင်ရှိနေကြသော ကိုးကွယ်ရာဘာသာအချို့ဟူ၍ အသိအမှတ်ပြုသည်။

---

၁ (၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၂၀။) ဖြင့်ပြင်ဆင်

၂ (၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၂၀။) ဖြင့်ဖြည့်စွက်

၃ (၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၁၇။) ဖြင့်ပြင်ဆင်

(၃) နိုင်ငံတော်သည် ဘာသာရေးဆိုင်ရာ ကိုးကွယ်မှုကိုသော်ငင်း၊ ယုံကြည်မှုကိုသော်ငင်း အကြောင်းပြု၍၊ မည်သူ့ကိုမျှ သက်ဆိုင်ရာအခွင့်အရေးချို့ငဲ့စေခြင်း၊ ခွဲခြားခြင်းကို မပြုရ။

(၄) နိုင်ငံရေးကိစ္စအလို့ငှာ ကိုးကွယ်ရာဘာသာကို အလွဲသုံးစားမပြုရ။ ထို့ပြင် လူမျိုးရေးကြောင့်သော်ငင်း၊ ကိုးကွယ်ရာဘာသာရေးကြောင့်သော်ငင်း၊ တဖက်နှင့်တဖက် တဂိုဏ်းနှင့်တဂိုဏ်းမုန်းတီးခြင်း၊ ရန်မူခြင်း၊ စိတ်ဝမ်းကွဲခြင်းတို့ ပေါ်ပေါက်လာစေရန် ရည်ရွယ်သော သို့တည်းမဟုတ် ပေါ်ပေါက်လာရန် အကြောင်းရှိသော အပြုအမူသည် ဤအခြေခံဥပဒေနှင့်ဆန့်ကျင်သည်။ ထိုအပြုအမူ မျိုးအတွက် အပြစ်ဒဏ်ပေးနိုင်အောင် တရားဥပဒေပြုနိုင်သည်။

(၅) ပြည်ထောင်စုနိုင်ငံအစိုးရသည်၊ မိမိနှစ်စဉ် သာမန်သုံးငွေ၏ အနည်းဆုံး၅ဝရာခိုင်နှုန်းနှင့် ညီမျှသောငွေကို ဘာသာ သာသနာရေးအတွက် ချီးမြှောက်ထောက်ပံ့ရမည်။[၁]

(၆) ဘာသာ သာသနာတို့ကို ရေးသားခြင်းအားဖြင့်သော်လည်းကောင်း၊ မြွက်ဆိုခြင်းအားဖြင့်သော်လည်းကောင်း၊ အခြားနည်းအားဖြင့်သော်လည်းကောင်း စော်ကားမှု၊ မဟုတ်မမှန်စွပ်စွဲမှု စသော ဘေးရန်အန္တရာယ်ခပ်သိမ်းမှ နိုင်ငံတော်အစိုးရသည် ကာကွယ်စောင့်ရှောက်ရမည်။ [၂]

ရှင်းလင်းချက်။ ။ ဘာသာ သာသနာဆိုသည်မှာ ဤပုဒ်မရှိ ပုဒ်မခွဲ(၁)နှင့်(၂)တို့တွင် ဖော်ပြထားသည့် ဗုဒ္ဓဘာသာ သာသနာ၊ အစ္စလာမ်ဘာသာ သာသနာ၊ ခရစ်ယာန်ဘာသာ သာသနာ၊ ဟိန္ဒူဘာသာ သာသနာနှင့် နတ်ကိုးကွယ်သော ဘာသာတို့ကို ဆိုလိုသည်။[၃]

၂၁-က[၄]။ ။ဗုဒ္ဓဘာသာ သာသနာတော်မှာ၊ ပြည်ထောင်စုနိုင်ငံ၏ နိုင်ငံတော် ဘာသာ သာသနာဖြစ်သည်နှင့်အညီ ပြည်ထောင်စုနိုင်ငံအစိုးရသည် -

(က) ပရိယတ္တိသာသနာ၊ ပဋိပတ္တိသာသနာနှင့် ပဋိဝေဓ သာသနာတည်းဟူသောဗုဒ္ဓဘာသာ သာသနာတော် သုံးရပ်ကို စည်ပင်ပြန့်ပွားအောင် ချီးမြှောက်ထောက် ပံ့ရမည်။

(ခ) ဘုရားရတနာ၊ တရားရတနာ၊ သံဃာရတနာ တည်းဟူသော ရတနာသုံးပါးကို ချီးမြှောက်ပူဇော်ရမည်။

(ဂ) အဆိုပါသာသနာသုံးရပ်နှင့် ရတနာသုံးပါးတို့ကို ရေးသားခြင်း အားဖြင့် သော်လည်းကောင်း၊ မြွက်ဆိုခြင်းအားဖြင့်သော်လည်းကောင်း အခြားနည်းအားဖြင့် သော်လည်းကောင်း၊ စော်ကားမှု၊ မဟုတ်မမှန်စွပ်စွဲမှု စသောဘေးရန်အန္တရာယ်ခပ်သိမ်းမှ ကာကွယ်စောင့်ရှောက်ရမည်။

ရှင်းလင်းချက်။ ။"သံဃာရတနာ" ဆိုသည်မှာ၊ ရဟန်းတော်တစ်ပါးစီ မဟုတ်ဘဲ၊ရဟန်းတော်

---

၁ (၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၁၇။) ဖြင့်ဖြည့်စွက်

၂ (၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၂၀။) ဖြင့်ဖြည့်စွက်

၃ (၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၁၇။) ဖြင့်ဖြည့်စွက်

၄ (၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၁၇။) ဖြင့်ဖြည့်စွက်

အားလုံးဂိုဏ်းဂဏမရွေး ပါဝင်သောသံဃာကို ဆိုလိုသည်။''

၂၁-ခ[၁]။ ။ပြည်ထောင်စုနိုင်ငံ အစိုးရသည် -

(က) ဆဋ္ဌသံဂါယနာတင် ပိဋကပါဠိတော် အဋ္ဌကထာနှင့် ဋီကာစာမူများကို ကောင်းစွာထိန်းသိမ်းစောင့်ရှောက် ထားရမည်။

(ခ) ပြည်ထောင်စုနိုင်ငံအတွင်း၊ ထိုပိဋကသုံးပုံပါဠိတော် အဋ္ဌကထာနှင့် ဋီကာစာမူများကိုပုံနှိပ်ကြရာတွင်၊ အမှားအယွင်းမပါရအောင် စည်းကမ်းများသတ်မှတ်၍ ထိုစည်းကမ်းများအတိုင်း လိုက်နာသူများကိုသာ ပုံနှိပ်ခွင့်ပြုရမည်။

၂၁-ဂ[၂]။ ။ပြည်ထောင်စုနိုင်ငံအစိုးရသည်၊ မန္တလေးတောင်ခြေအနီး မဟာလောက မာရဇိန်ကုသိုလ်တော်ဘုရားပရဝုဏ်အတွင်းရှိ ပဉ္စမသံဂါယနာတင် ပိဋကပါဠိတော်ကျောက်စာများနှင့် ထိုဘုရားအနီး စန္ဒာမုနိဘုရားပရဝုဏ်အတွင်းရှိ အဋ္ဌကထာနှင့် ဋီကာကျောက်စာများကို ကောင်းမွန်စွာ ထိန်းသိမ်းစောင့်ရှောက်ထားရှိစေရမည်။

၂၁-ဃ[၃]။ ။ ပြည်ထောင်စုနိုင်ငံအစိုးရသည်၊ တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် အောက်ပါဆရာတော်ကြီးများအား ပင့်ဘိတ်၍ နိုင်ငံတော်ဘာသာ သာသနာအတွက် မိမိ၏ဆောင်ရွက်ခဲ့ပုံများကို တင်ပြရမည့်ပြင် ထိုဆောင်ရွက်ခဲ့ပုံများနှင့် စပ်လျဉ်းသည့် ဆရာတော်ကြီးများ၏ ဝေဘန်ချက်၊ အကြံပေးချက်နှင့် ဩဝါဒများကိုလည်း ကြားနာကြရမည်။

(က) အဘိဓဇမဟာရဋ္ဌဂုရုဆရာတော်ကြီးများ၊

(ခ) အဂ္ဂမဟာပဏ္ဍိတဆရာတော်ကြီးများ၊

(ဂ) နိုင်ငံတော်ဩဝါဒါစရိယ ဆရာတော်ကြီးများနှင့်

(ဃ) နိုင်ငံတော်ဝိနည်းမိုရ် ဆရာတော်ကြီးများ။

## ယဉ်ကျေးမှုနှင့်ပညာရေးဆိုင်ရာအခွင့်အရေးများ။

၂၂။ ။နိုင်ငံတော်ပညာသင်ကျောင်းများသို့ ဝင်ခွင့်ပြုရန်ကိစ္စနှင့်စပ်လျဉ်း၍၊ ကိုးကွယ်ရာဘာသာ၊ လူမျိုး၊ ဘာသာစကားတို့ကို အကြောင်းပြုကာ မည်သည့်လူနည်းစုကိုမျှ ခွဲခြားတားမြစ်ခြင်းမပြုရ။ မည်သည့်ကိုးကွယ်ရာဘာသာရေးသင်ခန်းစာကိုမျှလည်း၊ ထိုလူနည်းစုအား အတင်းအကျပ်လိုက်နာသင်ယူစေရန်ပညတ်ခြင်းမပြုရ။

## စီးပွားရေးဆိုင်ရာအခွင့်အရေးများ။

၂၃။ ။(၁) ဤပုဒ်မရှိပြဋ္ဌာန်းချက်များနှင့်မဆန့်ကျင်စေဘဲ၊ စီးပွားရေးကိစ္စများတွင် ပစ္စည်း ပိုင်ဆိုင်နိုင်ခွင့်နှင့် ကိုယ်ပိုင်လုပ်ကိုင်တီထွင်နိုင်ခွင့်တို့ရှိရမည်ဟု နိုင်ငံတော်က အခိုင်အမာ ခံဝန်ပြုသည်။

(၂) ကိုယ်ပိုင်ပစ္စည်းအသုံးချနိုင်သောအခွင့်အရေးကို ပြည်သူ့အကျိုးပျက်စီးနစ်နာအောင်

---

၁ (၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၁၇။) ဖြင့်ဖြည့်စွက်

၂ (၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၁၇။) ဖြင့်ဖြည့်စွက်

၃ (၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၁၇။) ဖြင့်ဖြည့်စွက်

မည်သူမျှအသုံးမပြုရ။

(၃) စဈေးနှုန်းများကို ချုပ်ကိုင်ရန်သော်၎င်း၊ အရောင်းအဝယ်တို့ကို လက်ဝါးကြီးအုပ်ရန်သော် ၎င်း၊ ဖွဲ့စည်းသော၊ သို့တည်းမဟုတ် နိုင်ငံတော်၏စီးပွားရေးပျက်စီးရာပျက်စီးကြောင်းဖြစ်သော ကာတယ်အဖွဲ့များ၊ ဆင်ဒီကိတ်အဖွဲ့များ၊ ထရတ်အဖွဲ့များ အစရှိသော ကိုယ်ပိုင်လက်ဝါးကြီးအုပ်အဖွဲ့များ မရှိရ။

(၄) နိုင်ငံတော်သည် ပြည်သူ့အကျိုးအတွက် လိုအပ်ပါက၊ ပိုင်ရှင်အားမည်ကဲ့သို့သောကိစ္စမျိုးတွင် မည်မျှလျော်ကြေးပေးရမည်ဟု ပြဋ္ဌာန်းထားသော တရားဥပဒေနှင့်အညီသာလျှင်၊ ကိုယ်ပိုင် ပစ္စည်းကို ကန့်သတ်ချုပ်ချယ်နိုင်သည်။ သို့တည်းမဟုတ် သိမ်းပိုက်နိုင်သည်။

(၅) တဆက်တည်းဖြစ်သော အထက်ပုဒ်မခွဲရှိ စည်းကမ်းချက်များနှင့်မဆန့်ကျင်လျှင်၊ ပြည်သူ့အကျိုးအတွက် လိုအပ်ပါက၊ နိုင်ငံ၏စီးပွားရေးနှင့်သက်ဆိုင်သောလုပ်ငန်းအမျိုးမျိုးကိုသော်၎င်း၊ တဂဲတည်းပိုင်လုပ်ငန်းများကိုသော်၎င်း၊ နိုင်ငံတော်သည် တရားဥပဒေပြဋ္ဌာန်း၍ နိုင်ငံပိုင်ပြုနိုင်သည်။ သို့တည်းမဟုတ် နိုင်ငံတော်အတွက် သိမ်းယူနိုင်သည်။

## ရာဇဝတ်ဥပဒေဆိုင်ရာအခွင့်အရေးများ။

၂၄။ ။ပြစ်မှုတခုကိုပြုသည့်အခါက အတည်ဖြစ်နေသောတရားဥပဒေကိုကျူးလွန်သည့်အတွက် မှတပါး၊ မည်သူ့ကိုမျှ ပြစ်မှုထင်ရှားမစီရင်ရ။ ထို့ပြင် ပြစ်မှုကိုပြုသည့်အခါက အတည်ဖြစ်နေသော တရားဥပဒေအရ ပေးနိုင်သော အပြစ်ဒဏ်ထက်ပို၍ကြီးသောအပြစ်ဒဏ်ကိုလည်း မည်သူ့အားမျှမပေးရ။

## ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေအရကာကွယ်နိုင်၊ ရယူနိုင်သောအခွင့်အရေးများ။

၂၅။ ။(၁) ဤအခန်း၌ပေးအပ်ထားသော အခွင့်အရေးတခုခုကိုရယူရန် တရားလွှတ်တော် ချုပ်အား၊ သက်ဆိုင်ရာနည်းဖြင့်လျှောက်ထား၍၊ ရယူပိုင်ခွင့်ရှိရမည်။

(၂) ဤကိစ္စနှင့်စပ်လျဉ်း၍ အခြားတရားရုံးများအား နှင်းအပ်ထားသောအာဏာများကို မထိခိုက်စေဘဲ၊ ဤအခန်း၌ပေးအပ်ထားသော အခွင့်အရေးနှင့်သင့်လျော်သည့် ရှေ့တော်သွင်းစာချွန်တော် အမိန့် (Haba CrEu)၊ အာဏာပေးစာချွန်တော်အမိန့်(MaDau)၊ တားမြစ်စေစာချွန်တော်အမိန့် (PrhbtD)၊ အာဏာပိုင်မေးစာချွန်တော်အမိန့်(Qu WarraDt)၊ အမှုခေါ်စာချွန်တော်အမိန့် (Crtrar)၊ ထိုစာချွန်တော်အမိန့်များ၏ သဘောမျိုးပါသောအမိန့်များကိုထုတ်နိုင်ရန် တရားလွှတ်တော်ချုပ်၌အာဏာရှိရမည်။

(၃) စစ်ဖြစ်သောအခါ၌သော်၎င်း၊ တိုင်းတပါးကထိပါးတိုက်ခိုက်လာသောအခါ၌သော်၎င်း၊ ပုန်ကန်သော အခါ၌သော်၎င်း၊ ဆူပူထကြွသောအခါ၌သော်၎င်း၊ အထူးအရေးတကြီးဖြစ်လာသောအခါ၌ သော်၎င်း၊ ပြည်သူ့လုံခြုံမှုအတွက် လိုအပ်သည့်ကိစ္စမှာမှတပါး၊ ဤကာကွယ်ခွင့်၊ ရယူခွင့်များကို ရပ်ဆိုင်း ထားခြင်းမပြုရ။

၂၆။ ။နိုင်ငံခြားများနှင့်ဆက်ဆံရာတွင်၊ နိုင်ငံသားတိုင်းသည်၊ ပြည်ထောင်စုနိုင်ငံ၏အတွင်း အပနှစ်ဌာနလုံး၌၊ ပြည်ထောင်စုနိုင်ငံ၏ကာကွယ်စောင့်ရှောက်မှုကို တောင်းဆိုနိုင်ရမည်။

၂၇။ ။တိုင်းတပါးကထိပါးတိုက်ခိုက်ခြင်း၊ ပုန်ကန်ခြင်း၊ ဆူပူထကြွခြင်း၊ အထူးအရေးတကြီး ဖြစ်ခြင်းတို့ပေါ်ပေါက်သည့် အခါများမှာမှတပါး၊ နိုင်ငံသားတဦး၏တရားစွဲဆိုပိုင်ခွင့်ရှိသော နစ်နာချက်အတွက်၊ ထိုနိုင်ငံသားအား၊ တရားဥပဒေဖြင့် သတ်မှတ်ထားသောကာကွယ်နိုင်ခွင့်၊ ရယူနိုင်ခွင့်တို့ကို မပေးဘဲမနေရ။

၂၈။ ။ကာကွယ်ရေးတပ်ဖွဲ့ဝင်များသည် သို့တည်းမဟုတ် ငြိမ်ဝပ်ပိပြားရေးအတွက် ထားရှိ သောတပ်ဖွဲ့ဝင်များသည် မိမိတို့၏တာဝန်ဝတ်တရားများကို ကျေပွန်စွာဆောင်ရွက်နိုင်စေခြင်းငှာလည်း၊ ထို့ပြင် စည်းကမ်းသေဝပ်မှုရှိစေခြင်းငှာလည်း၊ ဤအခန်း၌ပေးအပ်ထားသောအခွင့်အရေးများကို မည်ရွေ့မည်မျှကန့်သတ်ချုပ်ချယ်ထားရမည်ဟူ၍ သို့တည်းမဟုတ် မည်ရွေ့မည်မျှ ဖျက်သိမ်းရမည်ဟူ၍ ပါလီမန်က တရားဥပဒေဖြင့်ပြဋ္ဌာန်းနိုင်သည်။

၂၉။ ။ပါလီမန်သည် ဤအခန်းရှိပြဋ္ဌာန်းချက်များကို အတည်ဖြစ်စေရန်၊ လိုအပ်သောဥပဒေများကိုပြုရမည်။ တဖန်ဤအခန်းတွင်ပြစ်မှုကျူးလွန်ရာရောက်သည်ဟုဖော်ပြထားသော်လည်း၊ အပြစ်ဒဏ်ပေးပိုင်ခွင့်မရှိခဲ့သေးသော ပြစ်မှုများအတွက် အပြစ်ဒဏ်သတ်မှတ်ပေးရန်လည်း ဥပဒေများကို ပြုရမည်။

## **အခန်း (၃)**

## **တောင်သူလယ်သမားများနှင့်အလုပ်သမားများအတွက်နိုင်ငံတော်၏တာဝန်များ**

၃၀။ ။(၁) နိုင်ငံတော်သည်မြေယာအားလုံး၏ ပင်ရင်းပိုင်ရှင်ဖြစ်သည်။

(၂) ဤအခြေခံဥပဒေ၏ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ၊ မြေယာပိုင်ခွင့်စံနစ်များကို စည်းမျဉ်းတကျ ဖြစ်စေရန်သော်၎င်း၊ လွှဲပြောင်းရန်သော်၎င်း၊ ဖျက်သိမ်းရန်သော်၎င်း၊ နိုင်ငံတော်၌ အခွင့်အရေးရှိရမည်။ သို့တည်းမဟုတ် မည်သည့်မြေယာကိုမဆို ပြန်လည်သိမ်းယူပြီးလျှင်၊ ထိုမြေယာကို စုပေါင်း စိုက်ပျိုးရေးအတွက်ဖြစ်စေ၊ သမဝါယမစိုက်ပျိုးရေးအတွက်ဖြစ်စေ၊လယ်သီးစားသမားများသို့ ဖြစ်စေ၊ ဝေငှပေးရန်အခွင့်အရေးရှိရမည်။

(၃) မည်သည့်အခြေခံစံနစ်နှင့်မျှမြေယာ အမြောက်အများပိုင်ဆိုင်နိုင်သော အခွင့်မရှိစေရ။ တစ်ဦးတည်း ပိုင်ဖြစ်သော မြေယာ၏အများဆုံး မြေဧကအရေအတွက်ကို အကြောင်းညီညွတ်လျှင် ညီညွတ်ခြင်း တရားဥပဒေဖြင့်သတ်မှတ်ရမည်။

၃၁။ ။ စီးပွားရေး၌သူတစ်ပါးကိုနစ်နာစေ၍ကိုယ်ကျိုးရှာခြင်းမှကာဆီးရေးအတွက် ၊ မိမိတို့ အချင်းချင်းပေါင်းသင်း ဖွဲ့စည်းနိုင်ကြစေရန် အလုပ်သမားများအား နိုင်ငံတော်သည် စီးပွားရေးဆိုင်ရာ ဆောင်ရွက်ချက်ဖြင့်၎င်း အခြားဆောင်ရွက် များဖြင့်၎င်း ကူညီနိုင်သည်။ အလုပ်သမားများအား စည်းရုံးပိုင်ခွင့်ပေးစေရန်၎င်း၊ အလုပ်လုပ်သော အချိန်နာရီတို့ကို ကန့်သတ်စေရန်၎င်း၊နှစ်စဉ်အားလပ်ရက်များရခွင့်ရှိအောင်စီမံစေရန်၎င်း၊အလုပ်ခွင်၏ အခြေအနေကိုကောင်းမွန်အောင်ပြုပြင် စေရန်၎င်း၊ ရည်ရွယ်၍နိုင်ငံတော်သည် ဥပဒေပြုပေးခြင်းဖြင့်၊ အလုပ်သမားများကို

ကာကွယ်စောင့်ရှောက်ရမည်။ထို့ပြင် အကြောင်းညီညွတ်လျှင်ညီညွတ်ခြင်း၊ နေခင်းထိုင်ခင်းနှင့် ထောက်ပံ့မှုအာမခံစံနစ်တို့အတွက် စီမံချက်များကို အားပေးခြင်းဖြင့်လည်း၊ကာကွယ်စောင့်ရှောက်ရမည်။

# အခန်း (၄)

# နိုင်ငံတော်၏ ဝါဒရည်ညွှန်းချက်မူများ

၃၂။ ။ဤအခန်းတွင် ဖော်ပြထားသော မူများကို နိုင်ငံတော်အတွက် ယေဘူယျလမ်းညွှန် သဖွယ် ရည်ရွယ်သည်။ နိုင်ငံတော်သည် ဥပဒေပြုရာ၌၎င်း၊ အုပ်ချုပ်ရာ၌ ၎င်း ထိုမူများနှင့်အညီ ဆောင်ရွက်ရန အလေးဂရုပြုရမည်။ သို့ရာတွင် ထိုသို့ဆောင်ရွက်စေရန် မည်သည့်တရားရုံးတွင် မျှတတရားစွဲဆိုပိုင်ခွင့် မရှိစေရ။

၃၃။ ။နိုင်ငံသားတိုင်းအောက်ပါ အခွင့် အရေးများကိုရရှိခံစားနိုင်ရန် နိုင်ငံတော်သည် ဝါဒထားရှိ၍၊ ထိုဝါဒအတိုင်း ရှေ့ရှုဆောင်ရွက်ရမည်။

(က) အလုပ်လုပ်ပိုင်ခွင့်။

(ခ) အိုမင်းမစွမ်းဖြစ်သောအခါ၌သော်၎င်း၊ နာဖျားမကျန်းဖြစ်သောအခါ၌သော်၎င်း၊ အလုပ်လုပ်ကိုင်ခြင်းငှါ မစွမ်းဆောင်နိုင်သောအခါ၌သော်၎င်း၊ အထောက်အပံ့ရနိုင်သော အခွင့်အရေး။

(ဂ) အနားယူခွင့်၊ အားလပ်ခွင့်ရနိုင်သော အခွင့်အရေး။

(ဃ) ပညာသင်ကြားနိုင်သော အခွင့် အရေး။

၃၄။ ။နိုင်ငံတော်သည် ငယ်ရွယ်သူများကို အထူးဂရုပြု၍၊ ထိုသူတို့၏ ပညာသင်ကြားရေးကို အားပေးရမည်။

၃၅။ ။နိုင်ငံတော်သည် အင်အားနည်း၍ တိုးတက်မှုတွင် နောက်ကျသော နိုင်ငံသားစုများ၏ပညာရေးနှင့် စီးပွါးရေးတို့ကို အထူးဂရုပြု၍ အားပေးရမည်။ ထို့ပြင် လူမှုဆက်ဆံရေး မတရားမှုမှ၎င်း၊ သူတပါးကို နစ်နာ စေ၍ကိုယ်ကျိုးရှာမှုမှ ၎င်း၊ ထိုသူတို့ကင်းလွတ်စေရန် နိုင်ငံတော်က ကာကွယ်စောင့်ရှောက်ပေးရမည်။

၃၆။ ။ပြည်သူ့ နေထိုင်ရေး အဆင့်အတန်း မြှင့်တင်မှုနှင့် ပြည်သူ့ကျန်းမာရေးကောင်းမွန် တိုးတက်မှု တို့သည်၊ နိုင်ငံတော်၏အဓိကတာဝန် ဝတ်တရားတစ်ခု ဖြစ်ရမည်။

၃၇။ ။ (၁) နိုင်ငံတော်သည်အလုပ်သမားတို့၏ခွန်အားနှင့်ကျန်းမာရေးတို့ကိုထိခိုက်ခြင်း မဖြစ်စေရန် ၎င်း၊ ကလေးသူငယ် နုနယ်သောအရွယ်ကို ထိခိုက်ခြင်း မဖြစ်စေရန်၎င်း၊ ထို့ပြင် ထိုသူတို့သည် မိမိတို့၏ ကျား-မ ဘာဝ၊ အသက်၊ ခွန်အားတို့နှင့် မသင့်မလျော်သော သက်မွေးမှု အလုပ်အကိုင်တို့တွင် စီးပွားရေးချို့ငဲ့မှုကြောင့် မနေသာဘဲ၊ ဝင်ရောက် လုပ်ကိုင်ရခြင်းမရှိစေရန် ၎င်းယုံကြည်စိတ်ချရအောင်စီမံရမည်။

(၂) နိုင်ငံတော်သည်မီးဖွါးရေးနှင့် ကလေး စောင့်ရှောက်ရေးအဖွဲ့များ၊ ကလေးဂေဟာများ၊ ကလေး ထိန်းနေ့ဌာနများကို ဖွင့်လှစ်ခြင်းအားဖြင့်၊ သားသည် အမေနှင့် ကလေးတို့၏ အကျိုးကိုစောင့်ရှောက်ရန်၊ ထို့ပြင် မီးမဖွါးမီနှင့် မီးဖွါးပြီးကာလများအတွက် လုပ်ခနှင့် နားခွင့်ရရန် အခွင့်အရေးကို အခစားလုပ်ကိုင် နေသောမိခင်တို့ ရရှိခံစားနိုင်စေရန် ဝါဒထားရှိ၍၊ ထိုဝါဒအတိုင်း အထူးရှေ့ရှုဆောင်ရွက်ရမည်။

၃၈။ ။ နိုင်ငံတော်သည် ကျန်းမာရေးဝန်ထမ်း အဖွဲ့များ၊ ဆေးရုံများ၊ ဆေးပေးရုံများ၊ အထူးဆေးရုံ များ၊

သူနာပြုရုံများ၊ နလံထဆေးရုံများနှင့် အခြားကျန်းမာရေး များကို တည်ထောင်ကြီးကြပ် အုပ်ချုပ်ပေးခြင်း အားဖြင့်၊ ပြည်သူ့ ကျန်းမာရေးကို ကောင်းသည်ထက်ကောင်းအောင် ဆောင်ရွက် ရမည်။

၃၉။ ။ ပြည်သူ့ကျန်းမာရေးနှင့်တကွ၊ လုပ်ရည်စွမ်းအားကို တိုးတက်စေရန်၄င်း၊ နိုင်ငံတော်ကာကွယ်ရေး စွမ်းအားကို ပြည့်တင်းစေရန်၄င်း၊ နိုင်ငံတော်သည် ပြည်သူများအတွက်၊ အထူးအားဖြင့် လူငယ်များအတွက်၊ ကာယဗလပညာ သင်ကြားရေးကို အထူးဂရုပြု၍ ဆောင်ရွက်ရမည်။

၄၀။ ။ နိုင်ငံတော်သည်မသန်မစွမ်းဖြစ်လာသောစစ်မှုထမ်းဟောင်းများအား၊ သင့်တင့်လျောက်ပတ်စွာ နေထိုင်စားသောက်နိုင်စေရန်၄င်း၊ သက်မွေးမှုပညာကို အခလွတ်သင်ယူနိုင်စေရန်၄င်း၊ စီမံဆောင်ရွက် ရမည်။

၄၁။ ။ နိုင်ငံ၏ဓနအင်အားကို တိုးတက်စေရန်၄င်း၊ ပြည်သူ့ ပြည်သူ့ပစ္စည်းဥစ္စာအင်အားကို ကောင်းသည် ထက်ကောင်းစေရန်၄င်း၊ ပြည်သူ့ယဉ်ကျေးမှုအဆင့်အတန်းမြင့်တက်လာစေရန်၄င်း၊ ပြည်ထောင်စု နိုင်ငံ၏ လွတ်လပ်ရေးကို တည်မြဲခိုင်ခံ့စေရန်၄င်း၊ နိုင်ငံတော်ကာကွယ်ရေး စွမ်းအားကို ကြီးမားလာ စေရန်၄င်း၊ ရည်ရွယ်၍ ပြည်ထောင်စုနိုင်ငံ၏ စီးပွါးရေး ဆိုင်ရာ စီမံကိန်းများကိုပြုရမည်။

၄၂။ ။ကိုယ်ကျိုးအမြတ်အစွန်းအတွက် မဟုတ်ဘဲ၊ လုပ်ကိုင်ဆောင်ရွက်နေသော စီးပွါးရေးလုပ်ငန်း အဖွဲ့စည်းများအား ပစ္စည်းငွေကြေး အထောက်အပံ့ပေးရန် နိုင်ငံတော်တွင် ဝါဒ ထားရှိ၍ ထိုဝါဒအတိုင်း ရှေ့ရှုဆောင်ရွက်ရမည်။ သမဝါယမ အစည်းအရုံးများနှင့် အလားတူ စီးပွါးရေးအစည်းအရုံးများအား ပိုမိုအခွင့် အရေးပေးရမည်။

၄၃။ ။ ဝိဇ္ဇာပညာနှင့် သိပ္ပံပညာများ၊ သုတေသနနှင့် ယဉ်ကျေးမှုအဖွဲ့စည်းများ ထို့ပြင် ပါဠိနှင့် သက္ကဋသင်ကြားရေးတို့ကို နိုင်ငံတော်က စောင့်ရှောက် ထောက်ပံ့ရမည်။

၄၃-က[၁]။ ။ နိုင်ငံတော်သည် ပြည်ထောင်စုနိုင်ငံအတွင်း၊ ရှေးမင်းများတည်ထား ကိုးကွယ်တော်မူခဲ့ကြ၍ မြတ်စွာဘုရား၏ဓါတ်တော်မွေတော်များ၊ ကိန်းဝပ်ရာဟူ၍ သာသနာသမိုင်းတွင် ထင်ရှား ကျော်စောသော ရှေးဟောင်းစေတီ၊ ပုထိုးများ၊ စစ်ဘေး၊ သူပုန်ဘေး၊ ငလျင်ဘေး စသောဘေးအန္တရာယ်များကြောင့် ပျက်စီးလျှင်၊ ထိုစေတီ၊ ပုထိုးများကို ပြုပြင်၊ ပြန်လည်တည်ထောင်ရာ၌ ကူညီထောက်ပံ့ရမည်။

၄၃-ခ[၂]။ ။ နိုင်ငံတော်သည် ဝိနည်းဒေသနာတော်နှင့် မဆန့်ကျင်စေရန် ပြည်ထောင်စု နိုင်ငံတစ်ဝန်းလုံးတွင်၊ လူပုဂ္ဂိုလ်များအတွက် ဆေးရုံနှင့် တမိုးတထရံ တည်းမဟုတ်မူ၍ ဘုန်းတော်ကြီးများနှင့်အပ်စပ်သော သံဃာ့ဆေးရုံ များ၌၊ ဘုန်းတော်ကြီးများအား ပြုစုကျွေးမွေးရာတွင်လည်း ဝိနည်း ဒေသနာတော်နှင့် မဆန့်ကျင်စေဘဲ ပြုစုကျွေးမွေးရမည်။

၄၄။ ။ (၁) ပြည်သူသုံးလုပ်ငန်းများကို နိုင်ငံတော်အစိုးရကိုယ်တိုင်ကသော်၄င်း၊ ဒေသန္တရအဖွဲ့များကသော်၄င်း၊ ပြည်သူ တို့၏သမဝါယမအစည်းအရုံးများကသော်၄င်း၊ တည်ထောင်လုပ်ကိုင် စေရန် နိုင်ငံတော်အစိုးရ၌ဝါဒထားရှိ၊ ထိုဝါဒအတိုင်း ရှေ့ရှုဆောင်ရွက်ရမည်။

၁ (၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၁၇။) ဖြင့်ဖြည့်စွက်

၂ (၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၁၇။) ဖြင့်ဖြည့်စွက်

(၂) ပြည်ထောင်စုနိုင်ငံတော်အတွင်းတွင်၊ ဓနပစ္စည်းထွက်မည့် သဘာဝပင်ရင်းအခြေ အမြစ်များကို နိုင်ငံတော်အစိုးရကိုယ်တိုင်ကသော်၎င်း၊ လုပ်ကိုင် သုံးစွဲစေရန် နိုင်ငံတော်အစိုးရဥ္စ်ဝါဒထားရှိ၍၊ ထိုဝါဒ အတိုင်းရှေ့ရှုဆောင်ရွက်ရမည်။

## အခန်း (၅)

## နိုင်ငံတော်သမတ

၄၅။ ။အောက်ပုဒ်မများတွင် ``နိုင်ငံတော်သမတ`` ဟုခေါ်အပ်သော ပြည်ထောင်စုနိုင်ငံ၏ သမတ ရှိရမည်။ နိုင်ငံတော်သမတသည် ပြည်ထောင်စုနိုင်ငံတဝန်းလုံးတွင် နိုင်ငံသားအားလုံး၏ အထွတ်အထိပ်နေရာကိုရရှိရမည်။ ထို့ပြင်ဤအခြေခံဥပဒေနှင့် တရားဥပဒေတို့က အပ်နှင်းသော အာဏာနှင့်အလုပ်ဝတ် တရားများကို သုံးစွဲဆောင်ရွက်ရမည်။

၄၆။ ။နိုင်ငံတော်သမတကို လျှို့ဝှက်သော မဲဆန္ဒပေးစံနစ်ဖြင့်၊ ပါလီမန်ဆိုင်ရာ လွှတ်တော်နှစ်ရပ်၏ တွဲဖက်ညီလာခံတွင် ရွေးကောက်တင်မြှောက်ရမည်။ ဤအခန်းရှိပြဋ္ဌာန်း ချက်များနှင့် မဆန့်ကျင်စေဘဲ။ နိုင်ငံတော်သမတရာထူးအတွက် ရွေးကောက်တင်မြှောက် ခြင်းကို၊ ပါလီမန်အက်ဥပဒေဖြင့် သတ်မှတ် ရမည်။

၄၇။ ။(၁) နိုင်ငံတော်သမတသည်ပါလီမန်ဆိုင်ရာမည်သည့်လွှတ်တော်၏ အမတ်မျှမဖြစ်ရ။

(၂) မိမိ၏အမတ်နေရာကို စွန့်လွှတ်ခဲ့ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(၃) နိုင်ငံတော်သမတသည်၊ လစာစရိတ်ကြေးငွေရသော အခြားရာထူးဌာနန္တရများကို အစိုးရနှင့် သက်ဆိုင်သည်ဖြစ်စေ၊ မသက်ဆိုင် သည်ဖြစ်စေ၊ မခံယူရ။

၄၈။ ။(၁) နိုင်ငံတော်သမတသည်၊ ရာထူး သက်တမ်းမကုန်ဆုံးမီ၊ ရာထူးမှ နုတ်ထွက်သော ကြောင့်၄င်း၊ ကွယ်လွန်သောကြောင့်၄င်း ရာထူးမှနုတ်ပယ်ခြင်းခံရသောကြောင့်၄င်း၊ ထာဝစဉ် မစွမ်းမဆောင် နိုင်သောကြောင့်၄င်း၊ ထိုအကြောင်းတခုခုကြောင့် မဟုတ်လျှင်၊ ရာထူး၌ စတင်ထမ်းရွက်သည့် နေ့မှစ၍ ငါးနှစ်တိုင်တိုင်ထမ်းရွက် ရမည်။

(၂) မည်သည့် ပုဂ္ဂိုလ်မဆို၊ နိုင်ငံတော်သမတ အဖြစ်ဖြင့် ရာထူးသက်တမ်းနှစ်ကြိမ်ထက်ပို၍ မထမ်းမရွက်ရ။

၄၉။ ။(က) မိမိကိုယ်တိုင်သော်၄င်း၊ မိမိ၏ မိဘနှစ်ပါးသော်၄င်း၊ ပြည်ထောင်စုနိုင်ငံတော်၏ အာဏာ ပိုင်နက်အတွင်း၌ မွေးဖွါးခဲ့၍ ပြည်ထောင်စုနိုင်ငံသားလည်း ဖြစ်သော၊ ထို့ပြင်

(ခ) ပါလီမန်အမတ်အဖြစ်ရွေးကောက် တင်မြှောက်ခြင်းခံရသည့် အရည်အချင်းနှင့် ပြည့်စုံသည် လည်းဖြစ်သော ပုဂ္ဂိုလ်မျိုးမဟုတ်လျှင်၊ မည်သူမျှ နိုင်ငံတော် သမတရာထူးအတွက် ရွေးကောက်ခြင်းခံနိုင်ခွင့်မရှိစေရ။

၅၀။ ။ပဌမနိုင်ငံတော်သမတသည်၊ မိမိအား ရွေးကောက်တင်မြှောက်ပြီးသည့်နောက်၊ လျင်မြန်နိုင်သမျှ လျင်မြန်စွာမိမိ၏ရာထူးတွင်ဝင်ရောက်ထမ်းရွက်ရမည်။ နောက်နောင်းသော နိုင်ငံတော်သမတတိုင်းသည်၊ မိမိ အလျင် ထမ်းရွက်သွားသော နိုင်ငံတော်သမတ၏ ရာထူး သက်တမ်းကုန်ဆုံးပြီးသည့် နောက်တနေ့၌ သော်၄င်း၊ ထိုသို့ ကုန်ဆုံးပြီးသည့်နောက်၊ စောနိုင်သမျှစောသောနေ့၌သော် ၄င်း၊ ရာထူးတွင်ဝင်ရောက် ထမ်းရွက်ရမည်။ အကယ်၍ မိမိအလျင်ထမ်းရွက်သွားသော နိုင်ငံတော်သမတအား ရာထူးမှ နုတ်ပယ်လိုက်လျှင်၊ သို့တည်းမဟုတ် ထိုနိုင်ငံတော် သမတရာထူးမှ နုတ်ထွက်သွားလျှင်၊ သို့တည်းမဟုတ် ထာဝစဉ် မစွမ်းမဆောင်နိုင်လျှင်၊

သို့တည်းမဟုတ် ကွယ်လွန်လျှင်၊ မိမိအားရွေးကောက် တင်မြှောက် ပြီးသည့်နောက် လျှင်မြန်နိုင်သမျှ လျှင်မြန်စွာရာထူးတွင် ဝင်ရောက် ထမ်းရွက်ရမည်။

၅၁။ ။နိုင်ငံတော်သမတသည်၊ အစည်းအဝေးကျင်းပလျက်ရှိသော ပါလီမန်ဆိုင်ရာလွှတ်တော်နှစ်ရပ်နှင့် တရားလွှတ်တော်ချုပ်၏ တရားဝန်ကြီးများရှေ့မှောက်တွင်၊ အောက်ပါအတိုင်း လူသိရှင်ကြားသစ္စာဆို၍၊ လက်မှတ်ထိုး ပြီးလျှင်၊ ရာထူး၌ဝင်ရောက်ထမ်းရွက်ရမည်။

"ကျွန်ုပ် ------- သည် ပြည်ထောင်စုမြန်မာနိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေကို တည်မြဲအောင် ထိန်းသိမ်း၍၊ ပြည်ထောင်စုမြန်မာနိုင်ငံ၏ တရားဥပဒေများကို စောင့်ရှောက်ပါမည်။ ကျွန်ုပ်သည်ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေနှင့်တကွ၊ တရားဥပဒေတို့နှင့် ဖြောင့်မတ်မှန်ကန်စွာ ဆောင်ရွက်ပါမည်။ ပြည်ထောင်စုမြန်မာနိုင်ငံ၏ဘေးရန်အန္တရာယ် အပေါင်း တို့ကိုတွန်းလှန်ဖယ်ရှားရန်ကြိုးစားသောသတိဝီရိယဖြင့် အားထုတ် ပါမည်။ ကျွန်ုပ်သည်ပြည်ထောင်စု မြန်မာနိုင်ငံ၏အကျိုးငှါ၊ ပြည်ထောင်စုမြန်မာနိုင်ငံအားကျွန်ုပ်၏ အသက်နှင့်ကိုယ်ကို အပ်နှင်း သည်ဟု လေးနက် တည်ကြည်စွာ ကျေညာ၍၊ ကတိသစ္စာပြုသည်။"

၅၂။ ပြည်ထောင်စုအစိုးရ၏အကြံပေးချက်အရမှတပါး၊နိုင်ငံတော်သမတသည်မိမိ၏ရာထူးသက်တမ်း အတွင်းတွင် ပြည်ထောင်စုနိုင်ငံမှ ထွက်ခွါ မသွားရ။

၅၃။ နိုင်ငံတော်သမတသစ် ရွေးကောက်တင်မြှောက်ရေးအတွက်၊ နိုင်ငံတော်သမတသည်၊ မိမိ၏ရာထူးသက်တမ်းကုန်ဆုံး အံ့ဆဲဆဲဖြစ်သော ၃ လ အတွင်းတွင် ပါလီမန်ကိုဆင့်ခေါ်ရမည်။

၅၄။ ။(၁) အောက်ပါအကြောင်းတခုခုအတွက် နိုင်ငံတော်သမတကို စွပ်စွဲပြစ်တင်နိုင်သည်။

(က) နိုင်ငံတော်၏ ကျေးဇူးသစ္စာတော်ကိုဖောက်ဖျက်ခြင်း။

(ခ) အခြေခံဥပဒေကို ကျူးလွန်ခြင်း။

(ဂ) အကျင့်သိက္ခာလွန်ကဲစွာ ပျက်ပြားခြင်း။

(၂) ဤပုဒ်မရှိပြဋ္ဌာန်းချက်များနှင့်မဆန့်ကျင်စေဘဲ၊ထို့ပြင်ထိုပြဋ္ဌာန်းချက်များနှင့် လျော်ညီစွာ၊ စွပ်စွဲချက်ကို ပါလီမန်ဆိုင်ရာ လွှတ်တော်တရပ်ရပ်က တင်သွင်းနိုင် ရမည်။

(၃) ဤပုဒ်မအရ နိုင်ငံတော်သမတကိုစွပ်စွဲရန် ပါလီမန်ဆိုင်ရာလွှတ်တော်တရပ်ရပ်သို့ တင်သွင်းသောအဆိုကို၊ သက်ဆိုင်ရာလွှတ်တော်၏ အမတ်ဦးရေ စုစုပေါင်း အနက်လေးပုံ တပုံအောက် မလျော့သော အမတ်များကဆိုသွင်းရန် ကြိုတင် အကြောင်းကြားချက်ကို ကိုယ်တိုင် လက်မှတ်ထိုး၍ ပေးအပ်သောအခါမှာ မှတပါး၊ လက်မခံရ။

(၄) ပါလီမန်ဆိုင်ရာလွှတ်တော်တရပ်ရပ်က၊ ထိုကဲ့သို့သောအဆိုကို သက်ဆိုင်ရာ လွှတ်တော်၏ အမတ်ဦးရေ သုံးပုံနှစ်ပုံအောက်မလျော့သောအမတ်များကထောက်ခံ၍ ဆုံးဖြတ်ပြဋ္ဌာန်း သောအခါမှာမှတပါး၊ အတည်မပြုရ။

(၅) ပါလီမန်ဆိုင်ရာ လွှတ်တော်တရပ်က၊စွပ်စွဲချက်တခုကိုတင်သွင်းပြီးသောအခါ၊ အခြားလွှတ်တော်တရပ်က၊ ထိုစွက်စွဲချကက် စုံစမ်းစစ်ဆေး စေရမည်။

သို့တည်းမဟုတ်

(၆) စွပ်စွဲချက်ကိုစုံစမ်းစစ်ဆေးသောအခါတွင်၊ နိုင်ငံတော်သမတသည်၊ မိမိကိုယ်တိုင် သော်၎င်း၊ ကိုယ်စားလှယ်ဖြင့်သော်၎င်း၊ ချေပခွင့်ရှိရမည်။

(၇) စွပ်စွဲချက်ကိုစုံစမ်းစစ်ဆေးပြီးသဖြင့်၊ စွပ်စွဲချက်ကို စုံစမ်းစစ်ဆးသော သို့တည်းမဟုတ် စုံစမ်း စစ်ဆေးစေသော ပါလီမန်ဆိုင်ရာလွှတ်တော်၏ အမတ်ဦးရေစုစုပေါင်းအနက် သုံးပုံနှစ်ပုံ အောက်မလျော့သော အမတ်များက ထိုစွပ်စွဲချက်သည် မှန်ကန်သည့်အပြင်၊ စွပ်စွဲ ခံရသောပြစ်မှုသည် နိုင်ငံတော်သမတအား ရာထူးတွင် ဆက်လက်၍ မထမ်းမရွက် စေသင့်သောပြစ်မှုဖြစ်သည်ဟူ၍ ကျေညာသည့်ပြဋ္ဌာန်းချက်အဆိုကို အတည်ပြု ခဲ့သော၊ ထိုပြဋ္ဌာန်းချက်အဆိုကိုအကြောင်းပြု၍ နိုင်ငံတော်သမတ အား၊ ရာထူးမှရပ်စဲစေရမည်။

၅၅။ ။ နိုင်ငံတော်သမတသည်၊ အိမ်တော်တဆောင်ရရှိရမည်။ ထို့ပြင်တရားဥပဒေဖြင့်သတ်မှတ် ရမည်ဖြစ်သော လစာနှင့်စရိတ်များကိုရရှိရမည်။ နိုင်ငံတော်သမတ၏လစာနှင့် စရိတ်များကို နိုင်ငံတော်သမတ ၏ ရာထူးသက်တမ်းအတွင်းတွင် မပြောင်းမလဲရ။

၅၆။ ။ (၁) နိုင်ငံတော်သမတသည် ပြည်သူ့လွှတ်တော်က အမည်တင်သွင်းသောပုဂ္ဂိုလ်အား ဝန်ကြီးချုပ် ခန့်ထားရမည်။ ထိုဝန်ကြီးချုပ်သည် ပြည်ထောင်စုအစိုးရ အဖွဲ့၏ အကြီးအမှူးဖြစ်ရမည်။

(၂) နိုင်ငံတော်သမတသည်၊ ဝန်ကြီးချုပ်ကအမည်တင်သွင်းသော ပုဂ္ဂိုလ်တို့ကို၊ ပြည်ထောင်စု အစိုးရ အဖွဲ့ဝင် အခြားဝန်ကြီးများအဖြစ် ခန့်ထားရမည်။

(၃) နိုင်ငံတော်သမတသည်၊ ဝန်ကြီးချုပ်၏ အကြံပေးချက်အရပြည်ထောင်စုအစိုးရ ဝန်ကြီး တဦးဦး၏ရာထူးနုတ်ထွက်စာကိုလက်ခံရမည်။သို့တည်းမဟုတ်ရာထူးမှရပ်စဲစေရမည်။

၅၇။ ။နိုင်ငံတော်သမတသည်၊ဝန်ကြီးချုပ်၏ အကြံပေးချက်အရ၊ ပြည်သူ့လွှတ်တော်ကို ဆင့်ခေါ် ရမည်။ သို့တည်းမဟုတ် ရုပ်သိမ်းရမည်။ သို့တည်းမဟုတ်ဖျက်သိမ်း ရမည်။

ခြွင်းချက်။ ။သို့ရာတွင်ဝန်ကြီးချုပ်သည် ပြည်သူ့လွှတ်တော်၌အမတ်များရာ၏ ထောက်ခံမှုကို ဆက်လက်၍ မရရှိသောအခါ၊ ဝန်ကြီးချုပ်ကအကြံပေးငြားသော်လည်း၊ နိုင်ငံတော်သမတသည်၊ လွှတ်တော်ကိုမရုပ်သိမ်းဟူ၍သော်၎င်း၊ မဖျက်သိမ်းဟူ၍သော်၎င်း၊ ငြင်းပယ် နိုင်သည်။ ဤအခါမျိုးတွင် ဝန်ကြီးချုပ်သစ်တဦး၏ အမည်ကိုတင်သွင်းရန် လွှတ်တော်အားချက်ခြင်းဆင့်ဆို ရမည်။ထို့ပြင် ပြည်သူ့လွှတ်တော်သည် ၁၅ ရက်အတွင်း တွင်၊ ဝန်ကြီးချုပ်သစ်တဦး၏ အမည်ကို တင်သွင်းရန် ပျက်ကွက်ပါက ပြည်သူ့လွှတ်တော်ကို ဖျက်သိမ်းရမည်။

၅၈။ ။ (၁) ပါလီမန်၏ လွှတ်တော်နှစ်ရပ် လုံးကတည်ပြုသော၊ သို့တည်းမဟုတ်အတည်ပြုပြီး ဖြစ်သည်ဟုမှတ်ယူရမည့် ဥပဒေကြမ်းသည်၊ အက်ဥပဒေ ဖြစ်မြောက်လာရေးအတွက် နိုင်ငံတော်သမတ၏ လက်မှတ်ထိုးခြင်းကို လိုအပ်ရမည်။

(၂) နိုင်ငံတော်သမတသည်ပါလီမန်ကပြဋ္ဌာန်းလိုက်သောအက်ဥပဒေတိုင်းကို ထုတ်ပြန် ကျေညာရမည်။

၅၉။ ။ ဤအခြေခံဥပဒေရှိ ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ၊ ပြည်ထောင်စု၏ အုပ်ချုပ်မှုအခွင့်

အာဏာဟူသမျှသည်၊ နိုင်ငံတော်သမတ၌ တည်ရှိရမည်။ သို့ရာတွင် ဤပုဒ်မရှိစကားကြောင့် ပါလီမန်သည်၊ လက်အောက်ခံ အာဏာပိုင်တို့အား၊ အလုပ်ဝတ်တရားများကို မပေးအပ်နိုင်ဟုမဖြစ်စေရ၊ သို့တည်းမဟုတ် ထိုစကားကြောင့်ပင်၊ လက်ရှိတရားဥပဒေအရ တရားရုံး၌သော်၎င်း၊ တရားသူကြီး ၌သော်၎င်း၊ အရာရှိ၌သော်၎င်း၊ ဒေသန္တရအာဏာပိုင်၌ သော်၎င်း၊ အခြားအာဏာပိုင်၌သော်၎င်း၊ နှင်းအပ်ထားသော အလုပ်ဝတ်တရားများကို နိုင်ငံတော်သမတအား၊ လွှဲပြောင်းပေးအပ်သည်ဟု မမှတ်ယူရ။

၆၀။ ။ ပြစ်ဒဏ်လွတ်ငြိမ်းချမ်းသာခွင့်ပေးနိုင် သောအခွင့်အရေးသည်၊ နိုင်ငံတော်သမတ၌ တည်ရှိရမည်။

၆၁။ ။ (၁) နိုင်ငံတော်သမတသည်၊ နိုင်ငံတော်နှင့်၊ သို့တည်းမဟုတ် ပြည်သူတို့နှင့် သက်ဆိုင်သည့် အရေးကြီးသော ကိစ္စများနှင့် စပ်လျဉ်း၍ အမှာလွှာဖြင့် သော်၎င်း၊ မိန့်ခွန်းဖြင့်သော်၎င်း ပါလီမန်သို့အကြောင်းကြား နိုင်သည်။

(၂) နိုင်ငံတော်သမတသည်၊မည်သည့်ကိစ္စအကြောင်းကိုမဆို၊အခါမရွေး တနိုင်ငံလုံးသို့ လည်း မိန့်မြွက် နိုင်သည်။

၆၂။ ။ (၁) နိုင်ငံတော်သမတအဖြစ်ဖြင့် အာဏာနှင့် အလုပ်ဝတ်တရားများကို သုံးစွဲ ဆောင်ရွက်ခြင်း အတွက်သော်၎င်း၊ ထိုအာဏာနှင့် အလုပ်ဝတ်တရားများကို သုံးစွဲဆောင်ရွက်ရာတွင် ဖြစ်စေ၊ သုံးစွဲဆောင်ရွက်သည့် အနေနှင့်ဖြစ်စေ၊ ပြုခဲ့သော အပြုအမူတို့အတွက်သော်၎င်း၊ နိုင်ငံတော်သမတသည် ပါလီမန်ဆိုင်ရာ မည်သည့် လွှတ်တော်မည်သည့် တရားရုံးသို့မျှ ဖြေရှင်းရန်မလို။

(၂) သို့ရာတွင် နိုင်ငံတော်သမတ၏ အကျင့်သိက္ခာကို ပုဒ်မ ၅၄ ၏ ကိစ္စအလို့ငှါ၊ ပါလီမန်ဆိုင်ရာ လွှတ်တော်တရပ်ရပ်၌ ဝေဖန်စစ်ကြောနိုင်သည်။ သို့တည်းမဟုတ် အဆိုပါပုဒ်မအရ၊ စွပ်စွဲချက်များကိုစုံးစမ်း စစ်ဆေးရေးအတွက်ပါလီမန်ဆိုင်ရာ လွှတ်တော်တရပ်ရပ် ကခန့်အပ်သောတရားရုံးကဖြစ်စေ၊ တရားခုံတော်ကဖြစ်စေ၊ အဖွဲ့ကဖြစ်စေ ဝေဖန်စစ်ကြောနိုင်သည်။

(၃) နိုင်ငံတော်သမတကဤအခြေခံဥပဒေအရ၊ သုံးစွဲဆောင်ရွက်သည့်အနေနှင့်၊ ပြုပြီး ဖြစ်သော အပြုအမူသည်တဆက်တည်းဖြစ်သော အောက်ပုဒ်မတွင် ပါရှိသည့်၊ သို့တည်းမဟုတ် ညွှန်းထားသည့် ပြဋ္ဌာန်းချက်များနှင့်အညီမဟုတ်သောကြောင့်၊ မခိုင်လုံဟု ငြင်းဆိုပိုင်ခွင့်မရှိစေရ။

၆၃။ ။ (၁) ဤအခြေခံဥပဒေတွင် နိုင်ငံတော်သမတသည်၊ မိမိ၏သဘောအတိုင်းပြုမူရမည်ဟု သော်၎င်း၊ ပုဂ္ဂိုလ်တဦးဦးထံမှဖြစ်စေ၊ အဖွဲ့တခုခုထံမှဖြစ်စေ၊ အကြံပေးပြုမူရမည်ဟု သော်၎င်း၊ ပြဋ္ဌာန်းထား သည့်အတိုင်းဆောင်ရွက်အပ်သည်မှတပါး၊ အခြားကိစ္စများတွင် မိမိအား ပေးအပ်ထားသော အာဏာများနှင့် အလုပ်ဝတ်တရားများကို ပြည်ထောင်စု အစိုးရ၏ အကြံပေးချက်အရသာလျှင်၊ သုံးစွဲဆောင်ရွက် ရမည်။

(၂) နိုင်ငံတော်သမတထံသို့ အကြံပေးချက်ကို သော်၎င်း၊ အမည်တင်သွင်းချက်ကိုသော်၎င်း၊ အကြောင်း ကြားချက်ကိုသော်၎င်း၊ တင်သွင်းသည်၊ မတင်သွင်းသည်၊ သို့တည်း

မဟုတ် နိုင်ငံတော်သမတက ထိုအချက် တခုခုကို ရသည်မရသည်။ အကယ်၍ တင်သွင်းခဲ့သော်၊ သို့တည်း မဟုတ် ရခဲ့သော်၊ မည်သို့သော အကြံပေးချက်မျိုး ဖြစ်သည်၊ သို့တည်းမဟုတ် မည်သို့သောအမည်တင်သွင်းချက်မျိုး ဖြစ်သည်၊ သို့တည်းမဟုတ် မည်သို့အကြောင်းကြားချက်မျိုး ဖြစ်သည်ဟူသော အချက်များကို မည်သည့်တရားရုံးတွင်မျှ စစ်ကြောမေးမြန်းခြင်းမပြုရ။

၆၄။ ။ (၁) နိုင်ငံတော်သမတကွယ်လွန် သောအခါ၊ ရာထူးမှ နုတ်ထွက်သောအခါ၊ နုတ်ပယ်ခြင်း ခံရသောအခါ၊ အလုပ်ခွင်၌မရှိသောအခါ၊ ခေတ္တဖြစ်စေ ထာဝစဉ်ဖြစ်စေ မစွမ်းမဆောင် နိုင်သောအခါ၊ မည်သည့် အခါ၌မဆို နိုင်ငံတော်သမတရာထူး လစ်လပ်သောအခါ၊ ထိုအခါတမျိုးမျိုးတွင်၊ ဤအခြေခံဥပဒေက နိုင်ငံတော်သမတ အား၊ ပေးအပ်ထားသော အာဏာနှင့် အလုပ်ဝတ်တရား များကို၊ အောက်၌ပြဋ္ဌာန်း ထားသည့်အတိုင်း ဖွဲ့စည်းအပ် သော "နိုင်ငံတော် ဦးသျှောင်အဖွဲ့" က သုံးစွဲဆောင်ရွက် ရမည်။

(၂) နိုင်ငံတော်တရားဝန်ကြီးချုပ်၊ လူမျိုးစုလွှတ်တော်နာယကနှင့် ပြည်သူ့လွှတ်တော် ဥက္ကဋ္ဌ တို့ဖြင့်၊ နိုင်ငံတော်ဦးသျှောင်အဖွဲ့ကို ဖွဲ့စည်းရမည်။

(၃) နိုင်ငံတော် တရားဝန်ကြီးချုပ်ရာထူး လစ်လပ်သောအခါ၌သော်၎င်း၊ ထိုတရားဝန်ကြီးချုပ် မဆောင်ရွက်နိုင်သောအခါ၌သော်၎င်း၊ ထိုတရားဝန်ကြီးချုပ် ၏နေရာတွင်၊ ထိုတရား ဝန်ကြီးချုပ်၏ တာဝန်ဝတ်တရား များကိုဆောင်ရွက်စေရန် ခန့်ထားသော လွှတ်တော်ချုပ် တရားဝန်ကြီးသည်၊ သို့တည်းမဟုတ်ထိုတရားဝန်ကြီးမရှိပြန်လျှင်၊ တရားလွှတ်တော်ချုပ်မှ ထိုကိစ္စအတွက် ဆောင်ရွက်ရန် ရနိုင်သောဝါအရင့်ဆုံးတရားဝန်ကြီးသည်၊ နိုင်ငံတော်ဦးသျှောင်အဖွဲ့တွင် အဖွဲ့ဝင်တဦးအဖြစ်ဖြင့် ဆောင်ရွက်ရမည်။

(၄) လူမျိုးစုလွှတ်တော်နာယကရာထူး လစ်လပ်သောအခါ၌သော်၎င်း၊ အဆိုပါ နာ ယ က မဆောင်ရွက်နိုင်သော အခါ၌သော၎င်း၊ လူမျိုးစုလွှတ်တော်နာယက၏နေရာတွင်၊ လူမျိုးစု လွှတ်တော် ပုတိယနာယက သည် နိုင်ငံတော်ဦးသျှောင်အဖွဲ့၌ အဖွဲ့ဝင်တဦးအဖြစ်ဖြင့် ဆောင်ရွက်ရမည်။

(၅) ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌရာထူးလစ်လပ်သောအခါ၌သော်၎င်း၊ အဆိုပါ ဥက္ကဋ္ဌ မဆောင်ရွက်နိုင်သော အခါ ၌သော်၎င်း ၊ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌနေရာတွင်၊ ပြည်သူ့လွှတ်တော် ပုတိယ ဥက္ကဋ္ဌသည် နိုင်ငံတော်ဦးသျှောင်အဖွဲ့၌ အဖွဲ့ဝင်တဦးအဖြစ်ဖြင့် ဆောင်ရွက် ရမည်။

(၆) နိုင်ငံတော်ဦးသျှောင်အဖွဲ့ဝင်နှစ်ဦးရှိလျှင်၊ထိုအဖွဲ့သည်ဆောင်ရွက်နိုင်သည်။ အဖွဲ့ဝင်နေရာ တခု လစ်လပ်နေစေကာမူ၊ ဆောင်ရွက်နိုင်သည်။

(၇) နိုင်ငံတော်သမတသည်၊ ဤအခြေခံဥပဒေ အရ၊ အာဏာနှင့် အလုပ်ဝတ်တရားများကို သုံးစွဲဆောင် ရွက်သကဲ့သို့၊ နိုင်ငံတော် ဦးသျှောင်အဖွဲ့သည်လည်းသုံးစွဲ ဆောင်ရွက် ရမည်။

# အခန်း (၄)

# ပါလီမန်။

## အပိုင်း ၁။ အရပ်ရပ်ဆိုင်ရာ။

၆၅။ ။ ပြည်ထောင်စုနိုင်ငံ၏ဥပဒေပြုမှုအာဏာသည်၊ ပါလီမန်တွင်တည်ရှိရမည်။ ပါလီမန်တွင် နိုင်ငံတော်သမတ၊ ပြည်သူ့လွှတ်တော်နှင့် လူမျိုးစုလွှတ်တော် တို့ပါဝင် ရမည်။ ဤအခြေခံဥပဒေတွင် ပါလီမန်ကို ''ပါလီမန်''၊ သို့တည်းမဟုတ် ''ပြည်ထောင်စုပါလီမန်'' ဟုခေါ်ရမည်။

၆၆။ ။ ပါလီမန်၏ညီလာခံကို နှစ်စဉ်တနှစ်လျှင် အနည်းဆုံးတကြိမ်ကျင်းပရမည်။ ပါလီမန် ညီလာခံတခု၏ နောက်ဆုံးအစည်းအဝေးနှင့် နောက်ထပ်ကျင်းပသော ညီလာခံ၏ ပဌမအစည်းအဝေး တို့၏ စပ်ကြားတွင် ၁၂ လ ခြားမနေစေရ။

၆၇။ ။ (၁) ပြည်သူ့လွှတ်တော်သည်၊ လွှတ်တော် အမတ်များအနက် အမတ်နှစ်ဦးကို လွှတ်တော် ဥက္ကဋ္ဌနှင့် လွှတ်တော် ဒုတိယဥက္ကဋ္ဌအဖြစ်ဖြင့်၊ လျင်မြန်နိုင်သမျှ လျင်မြန်စွာရွေးချယ်ရမည်။ ထို့ပြင် လွှတ်တော်ဥက္ကဋ္ဌ၏ နေရာ၊ သို့တည်းမဟုတ် လွှတ်တော်ဒုတိယဥက္ကဋ္ဌ၏ နေရာလစ်လပ်သောအခါတိုင်း၊ထိုလစ်လပ်သောနေရာအတွက် ပြည်သူ့လွှတ်တော်သည် အခြားအမတ်တဦးကို လွှတ်တော် ဥက္ကဋ္ဌအဖြစ်ဖြင့်၊ သို့တည်းမဟုတ် လွှတ်တော်ဒုတိယ ဥက္ကဋ္ဌ အဖြစ်ဖြင့်၊ အကြောင်းအားလျော်စွာရွေးချယ်ရမည်။

(၂) ပြည်သူ့လွှတ်တော်တွင် ဥက္ကဋ္ဌရာထူး၌၊ သို့တည်းမဟုတ် ဒုတိယဥက္ကဋ္ဌရာထူး၌ ထမ်းရွက်နေသော သူသည်၊ လွှတ်တော်အမတ်အဖြစ်မှ ရပ်စဲခဲ့လျှင်၊ ထိုသူ သည် မိမိထမ်းရွက်နေသောရာထူးကို စွန့်လွှတ်ရမည်။ ထိုသူသည် မည်သည့်အခါ၌မဆို၊ နိုင်ငံတော်သမတထံသို့ မိမိကိုယ်တိုင် လက်မှတ်ရေးထိုးတင်သွင်းသောစာဖြင့် ရာထူးမှ နုတ်ထွက်နိုင်သည်။ သို့တည်းမဟုတ် ဥက္ကဋ္ဌကိုဖြစ် စေ၊ ဒုတိယဥက္ကဋ္ဌကိုဖြစ်စေ၊ လွှတ်တော်လက်ရှိအမတ်များ ရာ၏ဆုံးဖြတ်ပြဋ္ဌာန်းချက်ဖြင့်၊ ရာထူးမှနုတ်ပယ် နိုင်သည်။ သို့ရာတွင် ဤပုဒ်မခွဲ၏ကိစ္စအတွက် ဆုံးဖြတ်ရန်ရှိသော အဆိုကို အနည်းဆုံး ၁၄ ရက်ကြိုတင်၍ အကြောင်းကြား ခြင်းမပြုလျှင်၊ ထိုအဆိုကိုလွှတ်တော်၌ မတင်မသွင်းရ။

ခြွင်းချက်။ ။သို့ရာတွင် ပြည်သူ့လွှတ်တော်ကို ဖျက်သိမ်းသောအခါတိုင်း၊လွှတ်တော်ကို ဖျက်သိမ်းပြီး သည့်နောက်၊နောက်ထပ်တကြိမ်ရွေးကောက်သောလွှတ်တော်၏ပဌမအကြိမ်အစည်းအဝေးကို ကျင်းပအံ့ဆဲ ဆဲအချိန် အထိ၊ လွှတ်တော်ဥက္ကဋ္ဌသည် မိမိ၏ရာထူးကို မစွန့်လွှတ်ရ။

(၃) ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌရာထူး လစ်လပ်သောအခါ၊ ထိုလွှတ်တော်ဥက္ကဋ္ဌ၏ တာဝန်ဝတ္တရားများ ကို လွှတ်တော်ဒုတိယဥက္ကဋ္ဌက ဆောင်ရွက်ရမည်။ လွှတ်တော်ဒုတိယဥက္ကဋ္ဌ ရာထူးလည်း လစ်လပ်ခဲ့သော်၊ ထိုကိစ္စအတွက် လွှတ်တော်အမတ်များအနက် နိုင်ငံတော် သမတကခန့်ထားသော အမတ်တဦးက ဆောင်ရွက်ရမည်။ လွှတ်တော်အစည်းအဝေးသို့ ဥက္ကဋ္ဌမတက်ရောက်သော အခါ လွှတ်တော်ဒုတိယဥက္ကဋ္ဌက၊ ဥက္ကဋ္ဌအဖြစ်ဖြင့်

ဆောင်ရွက်ရမည်။ ပုတိယဥက္ကဋ္ဌ လည်း အစည်းအဝေးသို့ မတက်ရောက်သောအခါ၊ လွှတ်တော်ကရွေးချယ်သော အခြားသူတဦးက ဥက္ကဋ္ဌအဖြစ်ဖြင့်ဆောင်ရွက်ရမည်။

(၄) လွှတ်တော်ဥက္ကဋ္ဌနှင့် လွှတ်တော်ဒုတိယ ဥက္ကဋ္ဌတို့အား၊ ပါလီမန်အက်ဥပဒေဖြင့် သတ်မှတ်သော လစာငွေများကိုပေးရမည်။

(၅) ဤပုဒ်မရှိ အထက်ကဖေါ်ပြခဲ့သော ပြဋ္ဌာန်းချက်များသည်၊ ပြည်သူ့လွှတ်တော်နှင့် သက်ဆိုင်သကဲ့သို့လူမျိုးစုလွှတ်တော်နှင့်လည်းသက်ဆိုင်ရမည်။ ဥက္ကဋ္ဌအစား ``နာယက``၊ ပုတိယဥက္ကဋ္ဌ အစား ``ဒုတိယ နာယက`` ဟုသုံးစွဲရမည်။ ``ပြည်သူ့လွှတ်တော်`` ဟု သုံးစွဲသောနေရာများ၌ ``လူမျိုးစုလွှတ်တော်`` ဟုသုံးစွဲရမည်။

၆၈။ ။(၁) အခြေခံဥပဒေ၏ ပြဋ္ဌာန်းချက် များနှင့်၄င်း၊ ပါလီမန်လုပ်ငန်းစဉ်ကို စည်းမျဉ်း တကျဖြစ်အောင်ပြုထားသော နည်းဥပဒေများနှင့်တကွ တည်ဆဲ အမိန့်များနှင့်၄င်း မဆန့်ကျင်လျှင်၊ ပါလီမန်၌လွတ်လပ်စွာ ပြောဆိုခွင့်ရှိရမည်။ ပါလီမန်တွင်၊ သို့တည်း မဟုတ် ပါလီမန်၏ ကော်မီတီများတွင်ပြောဆိုခဲ့ခြင်း၊ မဲပေးခဲ့ခြင်းတို့နှင့် စပ်လျဉ်း၍ မည်သည့်ပါလီမန်အမတ်ကိုမျှ တရားစွဲဆိုပိုင် ခွင့်မရှိစေရ။ ထို့ပြင် ပါလီမန်ဆိုင်ရာ လွှတ်တော်ကသော် ၄င်း၊ ထိုလွှတ်တော်၏ အခွင့်အာဏာအရသော်၄င်း၊ ဖြန့်ချီ ထုတ်ဝေသော အစီရင်ခံစာ၊ စာရွက်စာတမ်း၊ မဲဆန္ဒများ၊ လွှတ်တော် မှတ်တမ်းများနှင့် စပ်လျဉ်း၍လည်း၊ မည်သူ့ကိုမျှ တရားစွဲဆိုပိုင်ခွင့်မရှိစေရ။

(၂) အခြားကိစ္စများတွင်မူကား၊ ပါလီမန်ဆိုင်ရာ လွှတ်တော်အမတ်များခံစားထိုက်သော အခွင့်အရေးများ သည်၊ အခါကာလ အားလျော်စွာ ပါလီမန်အက်ဥပဒေဖြင့် ပိုင်းခြား ဖော်ပြသည့်အတိုင်းဖြစ်ရမည်။ ထိုသို့ပိုင်းခြား ဖော်ပြခြင်းမပြုသေးလျှင် ထိုအမတ်များ၏ အခွင့်အရေး များသည်၊ ဤအခြေခံဥပဒေအာဏာတည်အံ့ဆဲဆဲတွင် မြန်မာနိုင်ငံ ဥပဒေပြုအဖွဲ့အမတ်များ ခံစားကြသော အခွင့်အရေးများအတိုင်းဖြစ်ရမည်။

၆၉။ ။(၁) ဤအခြေခံဥပဒေက အခြား ပြဋ္ဌာန်းချက်ပြုထားခြင်းမရှိလျှင် လွှတ်တော်များ၏ အစည်းအဝေးတွင်၊ သို့တည်းမဟုတ် တွဲဖက်အစည်းအဝေးတွင် ဆွေးနွေးကြသောပြဿနာ အားလုံးကို အစည်းအဝေး တက်ရောက်မဲပေးသော လွှတ်တော်အမတ်များ၏ မဲများ ရာဖြင့် ဆုံးဖြတ်ရမည်။ ထိုသို့ဆုံးဖြတ်သောကိစ္စများတွင် ဥက္ကဋ္ဌသည်၊ သို့တည်း မဟုတ် နာယကသည်၊ သို့တည်း မဟုတ် ဥက္ကဋ္ဌအဖြစ်ဖြင့်ဖြစ်စေ၊ နာယက အဖြစ်ဖြင့်ဖြစ်စေ၊ဆောင်ရွက်နေသောပုဂ္ဂိုလ်သည်၊မဲမပေးရ။သို့ရာတွင် မဲအရေ အတွက် တူညီနေသောအခါ အနိုင်မဲပေးနိုင်ခွင့်ရှိ၍ အနိုင်မဲကိုပေးရမည်။

(၂) မိမိ၏အာဏာများကိုသုံးစွဲရန်၊လွှတ်တော်တရပ်ရပ်သည် အစည်းအဝေးအထမြောက်ရေး အတွက် လိုအပ်သော အမတ်ဦးရေကို လွှတ်တော်၏ နည်းဥပဒေ များဖြင့် ဆုံးဖြတ်သတ်မှတ်ရမည်။

(၃) အမတ်နေရာများလစ်လပ်နေစေကာမူ၊မူခင်းကိစ္စများကိုဆောင်ရွက်နိုင်ရန် ပါလီမန် ဆိုင်ရာ လွှတ်တော်တို့တွင်၊အာဏာရှိရမည်။ ထို့ပြင်အခွင့်အရေးရှိသော သူတဦး တယောက်သည်၊

လွှတ်တော်အစည်းအဝေးသို့ တက်ရောက်ခဲ့သည်ဟူ၍သော်၎င်း၊ မဲဆန္ဒပေးခဲ့သည်ဟူ၍သော်၎င်း၊ လွှတ်တော်၏ မှုခင်းကိစ္စဆောင်ရွက်မှုတွင်အခြား တနည်းနည်းဖြင့် ပါဝင်ခဲ့သည်ဟူ၍သော်၎င်း၊ နောင်အခါ မှာမှ ပေါ်ပေါက်လာစေကာမူ၊ ပါလီမန်၌ ဆောင်ရွက်ခဲ့သည့် မှုခင်းကိစ္စသည် အတည်ဖြစ်ရမည်။

(၄) အထက်ကပြဋ္ဌာန်းချက်များ၏ယေဘုယျ သဘောကိုမထိခိုက်စေဘဲ၊ ပြည်နယ်တနယ်နယ်မှ မိမိ၏ ကိုယ်စားလှယ်အမတ်များကို ရွေးချယ်၍ လူမျိုးစုလွှတ်တော် သို့စေလွှတ်ရေန် ပျက်ကွက်စေကာမူ၊ ထိုလွှတ်တော်တွင် မိမိ၏ လုပ်ငန်းဆောင်တာများကို ဆောင်ရွက်ရန်အာဏာ ရှိရမည်။

၇၀။ ။ ပါလီမန်၏၊ သို့တည်းမဟုတ် ပါလီမန် ဆိုင်ရာလွှတ်တော်တရပ်ရပ်၏ အစီရင်ခံစာများနှင့် ဖြန့်ချီထုတ်ဝေသမျှသော စာရွက်စာတမ်းအားလုံးအတွက် တရား စွဲဆိုပိုင်ခွင့်လုံးဝမရှိစေရ။

၇၁။ ။ လွှတ်တော်အသီးသီး၏ အမတ်များသည်၊ ပြည်သူတို့၏ ကိုယ်စားလှယ်အဖြစ်ဖြင့် တာဝန်ဝတ်တရားများကို ဆောင်ရွက်ကြရသောကြောင့်၊ ထိုပုဂ္ဂိုလ်များအား လစာနှင့် စရိတ်ကြေးငွေများကိုပေးရန်၎င်း၊ ပါလီမန်က သတ်မှတ်သောခရီးသွားလာမှု အခွင့်အရေးများနှင့် အခြား အခွင့်အရေးများကိုပေးရန်၎င်း၊ ပါလီမန်ကတရားဥပဒေဖြင့် ပြဋ္ဌာန်းနိုင်သည်။

၇၂။ ။ ပါလီမန်ဆိုင်ရာ လွှတ်တော်တရပ်ရပ်၏ အမတ်အသီးသီးသည်၊ လွှတ်တော်ရှိမိမိ၏ အမတ်နေရာကိုမယူခင်၊ နိုင်ငံတော်သမတ၏ရှေ့မှောက်၌သော်၎င်း၊ ဤအခြေခံဥပဒေ၏ ပဥ္စမဇယားတွင် ပါရှိသည့်အတိုင်း နိုင်ငံတော်၏ ကျေးဇူးသစ္စာတော်ကိုစောင့်ရှောက်ပါမည်ဟု ကျမ်းကိုင်၍ဖြစ်စေ၊ သစ္စာဆို၍ဖြစ်စေ၊ လက်မှတ်ရေးထိုး ရမည်။

၇၃။ ။(၁) တချိန်တည်းတွင်၊မည်သူမျှ၊ ပါလီမန်ဆိုင်ရာ လွှတ်တော်နှစ်ရပ်လုံး၏အမတ်မဖြစ်နိုင်။ လွှတ်တော်တရပ်တွင်အမတ်ဖြစ်နေသောသူသည်၊ အခြား လွှတ်တော်တွင်အမတ်ဖြစ်လာခဲ့သော်၊ ထိုသူသည်ပဌမ အမတ်နေရာကို စွန့်လွှတ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(၂) လွှတ်တော်အမတ်တဦးသည် –

(က) တဆက်တည်းဖြစ်သော အောက် ပုဒ်မရှိ ပုဒ်မခွဲ (၁) အရ၊ အမတ်အရည်အချင်း ပျက်ယွင်း လာခဲ့သော်၊ သို့တည်းမဟုတ်၊

(ခ) နိုင်ငံတော်သမတထံသို့၊ မိမိကိုယ်တိုင်လက်မှတ်ထိုး၍ နုတ်ထွက်စာတင်သွင်းခြင်းဖြင့်၊ အမတ်အဖြစ်မှ နုတ်ထွက်ခဲ့သော်၊

(၃) လွှတ်တော်အမတ်တဦးသည် သက်ဆိုင်ရာလွှတ်တော်၏ အခွင့်ကိုမရဘဲ၊ လွှတ်တော်အစည်းအဝေးအားလုံးသို့၊ ရက်ပေါင်းသုံးဆယ်တိတိတဆက်တည်း မတက် ရောက်ဘဲနေခဲ့သော်၊ သက်ဆိုင်ရာလွှတ်တော်သည် ထိုအမတ်၏နေရာ လစ်လပ် သည်ဟု ကြေညာနိုင်သည်။

ခြွင်းချက်။ ။သို့ရာတွင်ဆိုခဲ့သောရက်ပေါင်းသုံးဆယ်ကိုတွက်စစ်ရာ၌လွှတ်တော်ကိုရုပ်သိမ်းထားသော ကာလကို သို့တည်းမဟုတ်တဆက်တည်းဖြစ်သောလေးရက်ထက်ကျော်လွန်၍ အစည်းအဝေးရပ်ဆိုင်းထား

သော် ကာလကို၊ ထည့်သွင်းရေတွက်ခြင်းမပြုရ။

၇၄။ ။ (၁) အောက်ပါပုဂ္ဂိုလ်မျိုးအား၊လွှတ်တော်တရပ်ရပ်၏အမတ်အဖြစ်ဖြင့်ရွေးချယ်ခြင်းခံရန်၄င်း၊ လွှတ်တော်တရပ်ရပ်၏ အမတ်အဖြစ်တည်မြဲစေ ရန်၄င်း၊ ခွင့်မပြုရ။

(က) နိုင်ငံခြားအစိုးရ၏ ကျေးဇူးသစ္စာတော်ကို ခံယူစောင့်ရှောက်ရိုသေသူ၊ သို့တည်းမဟုတ် နိုင်ငံခြား အစိုးရ၏လက်အောက်ခံဖြစ်သူ၊ သို့တည်းမဟုတ် ထိုအစိုးရ၏ နိုင်ငံသားဖြစ်သူ၊ သို့တည်းမဟုတ် ထိုအစိုးရ၏ လက်အောက်ခံ ဖြစ်သူသော်၄င်း၊ နိုင်ငံသားသော်၄င်း၊ ခံစားရသော အခွင့်အရေးများနှင့် ကျေးဇူးခံစားခွင့်များကို ခံစားနိုင်ခွင့်ရှိသူ၊ သို့တည်းမဟုတ်

(ခ) လူမွဲအဖြစ် ဆုံးဖြတ်ကျေညာခံထားရခြင်း မှလွတ်မြောက်ခွင့်မရသေးသူ၊ သို့တည်းမဟုတ်

(ဂ) စိတ်ပေါ့သွပ်၍၊စိတ်ပေါ့သွပ်သူဟုအခွင့်အာဏာရတရားရုံး၏ အမိန့်ချမှတ်ခြင်း ခံနေရသူ၊ သို့တည်းမဟုတ်

(ဃ) ရာထူးတခုခု၌ ထမ်းရွက်နေသော်လည်း၊ ထိုရာထူးကြောင့်၊ လိုအပ်သော အရည်အချင်း ပျက်ယွင်း ခြင်းမရှိစေရဟု ပါလီမန်အက်ဥပဒေဖြင့် ကျေညာထားသော ရာထူးမျိုးမှတပါး၊ ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရလက်အောက် တွင်သော်၄င်း၊ ပြည်ထောင်စု အဖွဲ့ဝင်တခုခု၏ အစိုးရလက်အောက်တွင် သော်၄င်း၊ အကျိုးအမြတ် ရှိသော အခြားရာထူးတခုခု၌ ထမ်းရွက်နေ သည့်သူ၊ သို့တည်းမဟုတ်

(င) မြန်မာပြည်ဥပဒေပြုလွှတ်တော်၏ သို့တည်းမဟုတ် ပါလီမန်၏အက် ဥပဒေတခု ရှိပြဋ္ဌာန်းချက်များတွင် သီးခြားဖော်ပြထားသော ကာလအပိုင်းအခြား မကုန်ဆုံး သေးလျှင်၊ရွေးကောက်ပွဲဆိုင်ရာပြစ်မှုဖြစ်သည်ဟု၊ ထိုလွှတ်တော်က သော်၄င်း၊ ထိုပါလီမန် က သော်၄င်း၊ ထိုအက်ဥပဒေဖြင့်ပြဋ္ဌာန်းပြီးဖြစ် သော ပြစ်မှုမျိုးအတွက် ဤအခြေခံဥပဒေအာဏာမတည်မီ ကဖြစ်စေ၊ အာဏာတည်ပြီး နောက်မှဖြစ်စေ၊ အပြစ်ဒဏ် ခံရသူ၊ သို့တည်းမဟုတ် မြန်မာပြည်ဥပဒေပြု လွှတ်တော်၏၊ သို့တည်းမဟုတ် ပါလီမန်၏ အက်ဥပဒေတခုရှိပြဋ္ဌာန်းချက် များတွင် သီးခြားဖောပြထားသော ကာလအပိုင်းအခြား မကုန်လွန်သေးလျှင်၊ ထိုလွှတ်တော်၏၊ သို့တည်းမဟုတ် ထိုပါလီမန်၏အမတ်ဖြစ်ရန် အရည်အချင်း ပျက်ယွင်းစေသည့် ရွေးကောက်ပွဲဆိုင်ရာ တရားမဲ့ပြုကျင့်မှုဖြစ်သည်ဟု၊ ထိုလွှတ်တော်ကသော်မင်း၊ ထိုပါလီမန်ကသော်၄င်း၊ ထိုအက်ဥပဒေဖြင့် ပြဋ္ဌာန်းပြီးဖြစ်သော ပြုကျင့်မှုမျိုးအတွက်၊ ရွေးကောက် တင်မြှောက်ခြင်း ခိုင်လုံသည် မခိုင်လုံသည်၊ နည်းလမ်းကျသည်မကျသည်တို့ကို စုံစမ်း စစ်ဆေးသော အမှုအခင်းများတွင်၊ အပြစ်ကျူးလွန်သည်ဟု အမိန့်ချမှတ် ခြင်းခံရပြီးသူ၊ သို့တည်းမဟုတ်

(စ) အပြစ်ဒဏ်မှလွတ်သည့်နေ့မှစ၍ ၅နှစ် ကာလအပိုင်းအခြား၊ သို့တည်းမဟုတ်

နိုင်ငံတော်သမတက မိမိ၏သဘောအတိုင်းခွင့်ပြုသော ၅ နှစ်အောက် လျော့သော ကာလအပိုင်းအခြားမကုန်လွန်သေးလျှင်၊ အပိုဒ် (င) ၌ ဖော်ပြထား သောပြစ်မှုမျိုးမှတပါး၊ အခြားပြစ်မှုတခုခုအတွက် ပြည်ထောင်စုနိုင်ငံ၏ အာဏာပိုင် နက်တွင်၊ ဤအခြေခံ ဥပဒေအာဏာမတည်မီကဖြစ်စေ၊ အာဏာ တည်ပြီးနောက် မှုဖြစ်စေ၊ ပြစ်ဒဏ်ခံရ၍ တကျွန်းပို့ဒဏ်ကိုသော်၎င်း၊ ၂ နှစ် အောက်မနည်းသော ထောင်ဒဏ်ကိုသော်၎င်း၊ စီရင်ခြင်း ခံရပြီးသူ၊ သို့တည်းမဟုတ်

(ဆ) ရွေးကောက်ပွဲဆိုင်ရာကုန်ကျစရိတ်ကိုတင်သွင်းသင့်သောနေ့မှစ၍၅နှစ်ကာလ အပိုင်းအခြား မကုန်လွန်သေးလျှင်၊သို့တည်းမဟုတ် လိုအပ်သောအရည် အချင်း ပျက်ယွင်းချက်ကို နိုင်ငံတော်သမတက မိမိ၏ သဘောအတိုင်းပယ်ဖျက်ပြီး မဟုတ်သေးလျှင်၊ ပါလီမန်သို့ အမတ်အဖြစ်ဖြင့် အမည်တင်သွင်းခြင်း ခံရပြီးနောက်၊ သို့တည်းမဟုတ် ထိုသို့အမည် တင်သွင်းခြင်းခံရသောသူ၏ ရွေးကောက်ပွဲကိုယ်စားလှယ် အဖြစ်ဖြင့် ဆောင်ရွက်ပြီး နောက်၊ ဤအခြေခံ ဥပဒေအရထုတ်ဆင့်သော အမိန့်ဖြင့် သော်၎င်း၊ ပါလီမန်၏ အက်ဥပဒေ၌ သော်၎င်း၊ ပြဋ္ဌာန်းထားသော အချိန် ကာလအတွင်းတွင်၊ ထိုသို့ပြဋ္ဌာန်း ထားသော နည်းလမ်းနှင့်အညီ၊ ရွေးကောက်ပွဲ ဆိုင်ရာကုန်ကျစရိတ် စာရင်းကို တင်သွင်းရန် ပျက်ကွက်ခဲ့သူ။

ခြွင်းချက်။ ။သို့ရာတွင်ကုန်ကျစရိတ် စာရင်း တင်သွင်းသင့်သည့်နေ့မှစ၍၊ ၁ လဖြစ်စေ၊ နိုင်ငံတော်သမတက သီးခြားကိစ္စတွင်မိမိ၏သဘောအတိုင်းဆောင်ရွက်ကာ အခွင့်ပြုသော ၁ လထက်ပိုသော ကာလအပိုင်းအခြား ဖြစ်စေ၊ စေ့ကုန်ခြင်းမရှိမီ၊ ဤပုဒ်မခွဲ ရှိအပိုဒ် (ဆ) အရ အမတ်ဖြစ်ရန် ခွင့်မပြုခြင်းသည်အတည်မဖြစ်စေရ။

(၂) တစ်ဦးတစ်ယောက်သောသူသည် ရာဇဝတ်ပြစ်မှုကြောင့် တစ်ကျွန်းအပို့ခံနေရစဉ် သို့တည်းမဟုတ်ထောင်သွင်းအကျဉ်းထားခြင်းခံနေရစဉ်၊ထိုသူသည်လွှတ်တော် တရပ်ရပ်၏ အမတ်အဖြစ် ရွေးချယ်ခြင်းခံနိုင် ခွင့်မရှိစေရ။

ခြွင်းချက်။ သို့ရာတွင် အပြစ်ဒဏ်ခံရသော ကာလသည် ၂ နှစ်ထက်မပိုခဲ့သော်၊ နိုင်ငံတော် သမတသည်၊ အဆိုပါအရည်အချင်းပျက်ယွင်းချက်ကို၊ မိမိ၏သဘော အတိုင်းဖယ်ရှား နိုင်သည်။

(၃) အပြစ်မရှိသည်ဟု အမိန့်ချမှတ်ခြင်းခံရ သောကြောင့်ဖြစ်စေ၊ အပြစ်ရှိသည်ဟု အမိန့်ချမှတ်ခြင်း ခံရ၍ အပြစ်လွှတ်ပေးခြင်းကိုလည်းခံရသောကြောင့် ဖြစ်စေ၊ ဤပုဒ်မရှိ ပုဒ်မခွဲ (၁) အပိုဒ် (င) အရ၊ သို့တည်း မဟုတ် အပိုဒ် (စ) အရ၊ အရည်အချင်း ပျက်ယွင်းသော သူတဦးသည်၊ ထိုသို့အရည်အချင်း ပျက်ယွင်းသော နေ့တွင်၊ လွှတ်တော်တရပ်ရပ်၏ အမတ်ဖြစ်နေသော်၊ ဤပုဒ်မတွင် ဖြစ်စေ၊ တဆက်တည်းဖြစ်သော အချက်ပုဒ်မတွင်ဖြစ်စေ မည်သို့ပင်ဆိုထားစေကာမူ၊ ထိုသူ၏ အမတ်နေရာသည်၊ အရည်အချင်းပျက်ယွင်းသည့်နေ့မှစ၍ ၃ လမကုန်မလွန် မီ၊ သို့တည်းမဟုတ် အပြစ်ရှိသည်ဟု အမိန့်ချမှတ်ခံရခြင်း နှင့်ဖြစ်စေ၊ အပြစ်ဒဏ် အပေးခံရခြင်းနှင့်ဖြစ်စေ၊ စပ်လျဉ်း နေသော အယူခံလွှာကိုသော်၎င်း၊ စောဒကတင် လျှောက်လွှာ ကိုသော်၎င်း၊ ထို ၃ လအတွင်းတွင် တင်သွင်းခဲ့လျှင်၊

ထိုအယူခံလွှာကို၊ သို့တည်းမဟုတ် ထိုစွဲချက်လွှာကို မဆုံးဖြတ်သေးမီ၊ ထိုသို့အရည်အချင်း ပျက်ယွင်းသည့်အချက်ကြောင့် မလစ်လပ်ရ။ သို့ရာတွင် ဤပုဒ်မခွဲက ထိုသူအားလွှတ်တော်အမတ်အဖြစ်ဖြင့် တည်နေခွင့်ပေးထားသည့် ကာလအပိုင်း အခြားအတွင်းတွင်၊ ထိုသူသည် လွှတ်တော်အစည်းအဝေးသို့ တက်ရောက် ခြင်း၊ မဲဆန္ဒပေးခြင်းမပြုရ။

၇၅။ ။ တဦးတယောက်သောသူသည်၊ လွှတ်တော် တရပ်ရပ်တွင် အမတ်ဖြစ်ရန်လိုအပ်သော အရည်အချင်း ချို့ငဲ့နေပါလျက်နှင့်၊ သို့တည်းမဟုတ် ပျက်ယွင်းနေပါလျက် နှင့်၊ သို့တည်းမဟုတ် ပုဒ်မ၇၄ ရှိ ပုဒ်မခွဲ (၃) ၏ ပြဋ္ဌာန်း ချက်များက မိမိအား၊ ထိုလွှတ်တော်အမတ်အဖြစ်ဖြင့် မတက်မရောက်ရန်သော်၎င်း၊ မဲဆန္ဒမပေးရန်သော်၎င်း၊ တားမြစ်ထားခြင်းခံရပါလျက်နှင့်၊ သို့တည်းမဟုတ် ပုဒ်မ ၇၂ ၌ပါရှိသည့် လိုအပ်သောအချက်များကို လိုက်လျော ခြင်းမပြုမီ၊ ထိုသူသည် လွှတ်တော်တရပ်ရပ်သို့အမတ်အဖြစ်ဖြင့်တက်ရောက်ခဲ့သော်၊ သို့တည်းမဟုတ် မဲဆန္ဒပေး ခဲ့သော်၊ မိမိတက်ရောက်သော၊ သို့တည်းမဟုတ် မဲဆန္ဒ ပေးသော နေ့ရက်များအတွက် တနေ့လျှင် ဂဏ်ငွေ ၁၀၀ဝိဆောင်ရန် ထိုသူ၌တာဝန်ရှိရမည်။ ထိုငွေကို ပြည်ထောင်စုနိုင်ငံတော်အစိုးရအား ပေးဆပ်ရန် ရှိသော ကြွေးမြီကဲ့သို့၊ သဘောထား၍ ထိုသူထံမှ တောင်းယူရမည်။

၇၆။ ။ (၁) အသက်၂၁နှစ်ပြည့်သည့်အပြင်၊ ဤအခြေခံဥပဒေကသော်၎င်း၊တရားဥပဒေက အဖြစ်ဖြင့် အရွေးခံခွင့်ရရှိရမည်။

(၂) အသက် ၁၈ နှစ်ပြည့်၍၊ တရားဥပဒေအရ အရည်အချင်းပျက်ယွင်းသူ မဟုတ်သည့်ပြင်၊ ပါလီမန် အတွက် အမတ်ရွေးကောက်တင်မြှောက်ခြင်းဆိုင်ရာ တရားဥပဒေပြဋ္ဌာန်းချက်များနှင့် ညီညွတ်သောနိုင်ငံသား တိုင်းသည်၊ ပါလီမန်အတွက် ရွေးကောက်ပွဲတွင် မဲဆန္ဒ ပေးပိုင်ခွင့်ရရှိရမည်။

(၃) ပါလီမန်အမတ်ဖြစ်နိုင်ရေးအတွက်သော်၎င်း၊ ပါလီမန်အမတ်ရွေးကောက်ပွဲတွင် မဲဆန္ဒပေးနိုင်ရေး အတွက်သော်၎င်း၊ ပစ္စည်းဥစ္စာအရည်အချင်းမျိုး မထားရှိရ။

(၄) ပါလီမန်အမတ်ဖြစ်နိုင်ရေးအတွက် မည်သည့်နိုင်ငံသားကိုမျှ ကျား+မဘာဝကိုသော်၎င်း၊ လူမျိုးကိုသော်၎င်း၊ ကိုးကွယ်ရာဘာသာကိုသော်၎င်း၊ အကြောင်းပြု၍ လိုအပ်သော အရည်အချင်းချို့ငဲ့အောင်၊ ဥပဒေမပြုရ။ သို့တည်းမဟုတ် ဆက်လက်၍အတည်မဖြစ် စေရ။ ပါလီမန်အမတ်ရွေးကောက်ပွဲများတွင် မဲဆန္ဒပေးနိုင် ရေးအတွက်လည်း၊ မည်သည့်နိုင်ငံသားကိုမျှ အထက်ပါ အချက်များကိုပင်အကြောင်းပြု၍၊ လိုအပ်သော အရည်အချင်းပျက်ယွင်းအောင်၊ ဥပဒေမပြု။ သို့တည်းမဟုတ် ဆက်လက်၍ အတည်မဖြစ်စေရ။

ခြွင်းချက်။ ။သို့ရာတွင် ပုဒ်မ ၂၁ ရှိပုဒ်မခွဲ (၃) တွင်မည်သို့ပင်ပါရှိစေကာမူ၊ ဆိုခဲ့သော အမတ်ရွေးကောက်ပွဲများတွင် မဲဆန္ဒမပေးစေရန်၊ သို့တည်းမဟုတ် လွှတ်တော်၌ အမတ်မဖြစ်စေရန်၊ မည်သည့် သာသနာ့ ဝန်ထမ်းကိုမဆို တရားဥပဒေဖြင့် တားမြစ်နိုင်သည်။

(၅) မဲဆန္ဒပေးခြင်းကို လျှို့ဝှက်သော မဲဆန္ဒပေး စံနစ်ဖြင့်ပြုရမည်။

၇၇။ ။ဤအခြေခံဥပဒေ၏ ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ၊ ပါလီမန်ဆိုင်ရာ လွှတ်တော်

တရပ်ရပ် အတွက်အမတ်ရွေးကောက်ပွဲဆိုင်ရာ ကိစ္စအားလုံးကို၊ တရား ဥပဒေနှင့်အညီ၊ သတ်မှတ်ရမည်။ ထိုကိစ္စအားလုံးတွင်၊ မဲဆန္ဒနယ်သတ်မှတ်ခြင်း၊ ရုံဖန်ရုံခါလစ်လပ်သောအမတ်နေရာများကို ဖြည့်သွင်းခြင်း၊ ရွေးကောက်ပွဲကျင်းပ ရာမှသော်၎င်း၊ ရွေးကောက်ပွဲနှင့် စပ်လျဉ်း၍သော်၎င်း ဖြစ်ပေါ်လာသော္ဖြစ်မှု၊ အငြင်းပွါးမှုများကို ဆုံးဖြတ်ခြင်း တို့ပါဝင်ရမည်။

၇၈။ ။ပါလီမန်ဆိုင်ရာ လွှတ်တော်တရပ်ရပ်၏ အမတ်တဦးကို အမတ်အဖြစ်ထွက်ခိုင်းရန် လိုအပ်သော စည်းကမ်းချက်များနှင့် နည်းနာများကို ပါလီမန်သည်၊ တရားဥပဒေဖြင့် ပြဋ္ဌာန်းသတ်မှတ်နိုင်သည်။

၇၉။ ။ပြည်ထောင်စုအစိုးရအဖွဲ့ဝင် ဝန်ကြီး အသီးသီးနှင့် နိုင်ငံတော်ရှေ့နေချုပ်သည်၊ လွှတ်တော် တရပ်ရပ်၌၎င်း၊ လွှတ်တော်များ၏ တွဲဖက်အစည်းအဝေး ၌၎င်း၊ မိမိအားကော်မီတီလူကြီးတဦးအဖြစ်ဖြင့် အမည် ထုတ်ဖေါ်ပြထားသော ပါလီမန်ဆိုင်ရာကော်မီတီ၌၎င်း၊ ဝင်ရောက်ပြောဆိုခွင့်ရရှိသည့်အပြင်၊ အခြားနည်းဖြင့်ပါဝင် ဆောင်ရွက်ရန်လည်းအခွင့်ရရှိရမည်။ သို့ရာတွင် ဤပုဒ်မ ကိုအကြောင်းပြု၍ မဲဆန္ဒပေးပိုင်ခွင့်မရရှိစေရ။

၈၀။ ။ (၁) ဤအခြေခံဥပဒေရှိ ပြဋ္ဌာန်းချက် များနှင့်မဆန့်ကျင်စေဘဲ၊ ပါလီမန်ဆိုင်ရာ လွှတ်တော် အသီးသီးသည်၊ လွှတ်တော်၏ လုပ်ငန်းစဉ်နှင့် မှုခင်းကိစ္စ ဆောင်ရွက်မှုတို့ကို စည်းမျဉ်းသတ်မှတ်စေရန် နည်းဥပဒေ များကို ပြုနိုင်သည်။

(၂) နိုင်ငံတော်သမတသည်၊ လူမျိုးစုလွှတ်တော် နာယက၊ ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌတို့နှင့် ညှိနှိုင်းတိုင်ပင် ပြီးနောက်၊ လွှတ်တော်နှစ်ရပ်၏ တွဲဖက်အစည်းအဝေးများ နှင့် စပ်လျဉ်း၍၎င်း၊ ထိုလွှတ်တော်များ၏ အချင်းချင်း ဆက်သွယ်ရေးများနှင့် စပ်လျဉ်း၍ ၎င်းလုပ်ငန်းစဉ် နည်းဥပဒေများကိုပြုနိုင်သည်။

(၃) လွှတ်တော်နှစ်ရပ်၏ တွဲဖက်အစည်းအဝေး တွင်၊ လူမျိုးစုလွှတ်တော်နာယကသည်၊ သို့တည်းမဟုတ် ထိုနာယကမလာမရောက်လျှင် ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌ သည်၊ သို့တည်းမဟုတ် ဤပုဒ်မအရပြုထားသော လုပ်ငန်း စဉ်နည်းဥပဒေများဖြင့် ပြဋ္ဌာန်းသည့် ပုဂ္ဂိုလ်တဦးသည် သဘာပတိအဖြစ်ဖြင့် ဆောင်ရွက်ရမည်။

၈၁။ ။ ဤအခြေခံဥပဒေတွင် ပြဋ္ဌာန်သည့်အတိုင်း၊ တရားလွှတ်တော်ချုပ်မှ၊ သို့တည်းမဟုတ် တရားလွှတ်တော်မှ တရားဝန်ကြီး တဦးဦးအားရာထူးမှ နုတ်ပယ် ရန်အဆိုကိုဆွေးနွေးသည်မှတပါး၊ ထိုတရား ဝန်ကြီး အလုပ်ဝတ်တရားဆောင်ရွက်ရာ၌ ပြုမူသောပြုမူချက်များ နှင့်စပ်လျဉ်း၍ ပါလီမန်တွင် ဆွေးနွေးခြင်းမပြုရ။

၈၂။ ။ (၁) ပါလီမန်တွင်၊ ဆောင်ရွက်သည့် မှုခင်းကိစ္စသည် လွှတ်တော်များဆိုင်ရာ လုပ်ငန်းစဉ် နည်းလမ်းအတိုင်းမကျနသဖြင့် မခိုင်လုံဟုမည်သည့် တရား ရုံးတွင်မျှ ငြင်းဆိုပိုင်ခွင့် မရှိစေရ။

(၂) ပါလီမန်ဆိုင်ရာ လွှတ်တော်တရပ်ရပ်တွင် လွှတ်တော်လုပ်ငန်းစဉ်ကိုသော်၎င်း၊ မှုခင်းကိစ္စဆောင်ရွက် ခြင်းကိုသော်၎င်း၊ စည်းကမ်းသတ်မှတ်ပေးရန်၊ သို့တည်း မဟုတ် စည်းကမ်းသေဝပ်အောင်ဆောင်ရွက်ရန် ဤအခြေခံဥပဒေကသော်၎င်း၊ ဤအခြေခံ

ဥပဒေအရသော်၎င်း၊ အာဏာများနှင်းအပ်ခြင်းခံရသောပြည်သူ့ လွှတ်တော် ဥက္ကဋ္ဌအား၊ သို့တည်းမဟုတ် လူမျိုးစုလွှတ်တော် နာယကအား၊ သို့တည်းမဟုတ် ပါလီမန် ဆိုင်ရာလွှတ်တော် တရပ်ရပ်၏ အခြားအမတ်တဦးအား၊ ထိုအာဏာများကို သုံးစွဲဆောင်ရွက်ရေးနှင့် စပ်လျဉ်း၍၊ တရားရုံးကမစီရင်နိုင် စေရ။

## အပိုင်း (၂)

## ပြည်သူ့လွှတ်တော်။

၈၃။ ။ (၁) ပြည်သူ့လွှတ်တော်တွင် တရား ဥပဒေဖြင့် သတ်မှတ်ထားသော မဲဆန္ဒနယ်များမှ၊ ရွေးကောက်တင်မြှောက် လိုက်သည့် ကိုယ်စားလှယ်အမတ် များပါဝင်ရမည်။

(၂) ဤလွှတ်တော်အမတ်ဦးရေသည်၊ လူမျိုးစုလွှတ်တော်အမတ်ဦးရေ၏ နှစ်ဆနီးနီးဖြစ်နိုင်သမျှဖြစ်စေ ရမည်။ ဤလွှတ်တော်၏အမတ်ဦးရေကို အခါကာလ အားလျော်စွာ တရားဥပဒေဖြင့်သတ်မှတ်ရမည်။ သို့ရာတွင် ပြည်သူ့လွှတ်တော်အမတ်ဦးရေ အစုစုပေါင်းကို လူဦးရေ ၁၀၀၀၀၀ လျှင် အမတ်တဦး ကျနှင့်တွက်သဖြင့်ရရှိသော အမတ်ဦးရေအောက်လျော့၍ဖြစ်စေ၊ လူဦးရေ ၃၀၀၀၀ လျှင် အမတ်တဦးကျနှင့် တွက်သဖြင့်ရရှိသော အမတ် ဦးရေထက်ပို၍ဖြစ်စေ မသတ်မှတ်ရ။

(၃) နောက်ဆုံးအကြိမ်သန်းခေါင်စာရင်း ကောက်ယူချက်အရသိရှိရသော မဲဆန္ဒနယ်တနယ်ရှိ လူဦးရေနှင့်ထိုနယ်အတွက်ရွေးကောက်တင်မြှောက်ရမည့် အမတ်ဦးရေတို့၏ အချိုးအစားသည်၊ ပြည်ထောင်စုနိုင်ငံ တဝန်းလုံးတွင်၊မဲဆန္ဒနယ်တိုင်း၌ တူညီနိုင်သမျှ တူညီရမည်။ သို့ရာတွင်ကယားပြည်နယ်ရှိ မဲဆန္ဒနယ်များနှင့် (အခန်း ၉၊ အပိုင်း ၅ တွင်ညွှန်းထားသော) ချင်းဝိသေသတိုင်းရှိ မဲဆန္ဒနယ်များအတွက်မှာမူကား၊ အချိုးကျရနိုင်သည်ထက် အမတ်ဦးရေကို တိုးမြှင့်နိုင်သည်။

(၄) မဲဆန္ဒနယ်ရှိ လူဦးရေအတိုးအလျော့ကို ထောက်ထားသင့်သည့်အတိုင်း ထောက်ထား၍၊ ပါလီမန် သည် အနည်းဆုံးဆယ်နှစ်လျှင်တကြိမ်ကျ မဲဆန္ဒနယ် များကို စစ်ဆေးပြင် ဆင်ရမည်။ သို့ရာတွင် ထိုမဲဆန္ဒနယ်များ နှင့်စပ်လျဉ်းသော ပြောင်းလဲချက်သည်၊ လက်ရှိပါလီမန်၏ သက်တမ်းမကုန်ဆုံးမီ အကျိုးမသက်ရောက်ရ။

၈၄။ ။ (၁) ပြည်သူ့လွှတ်တော်အတွက် အမတ်ရွေးကောက်ပွဲများကို၊ လွှတ်တော်ဟောင်းအား ဖျက်သိမ်းပြီးသည့် နောက်ရက်ပေါင်း ၆၀ အောက်နောက်မကျစေဘဲ၊ ကျင်းပရမည်။ ရွေးကောက်ပွဲများကို ကျင်းပသောအခါ တိုင်း၊ ပြည်ထောင်စုနိုင်ငံတဝန်းလုံး၌ မဲဆန္ဒ ပေးခြင်းကို တနေ့ တည်းတွင် ဖြစ်မြောက်နိုင်သမျှ ဖြစ်မြောက် အောင်ပြုရမည်။

(၂) ပြည်သူ့လွှတ်တော်အစည်းအဝေးကို၊ မဲဆန္ဒ များပေးပြီးသည့်နေ့မှစ၍၊ ရက်ပေါင်း ၆၀ အတွင်း ကျင်းပ ရမည်။

၈၅။ ။ပြည်သူ့လွှတ်တော်တိုင်းသည်၊ ပဌမအစည်းအဝေးကို ကျင်းပသည့်နေ့မှစ၍၊လေးနှစ် တိုင်တိုင် ဆက်လက်တည်ရှိရမည်။

ခွင်းချက်။ ။သို့ရာတွင် ပုဒ်မ ၉၄ အရ အရေး တကြီးအခြေအနေဆိုက်ရောက်သည်ဟု ကျေညာသော အမိန့်တည်နေခိုက်တွင်၊ ပါလီမန်ဆိုင်ရာလွှတ်တော်များ သည် လွှတ်တော်နှစ်ရပ်၏ တွဲဖက်အစည်းအဝေးသို့ တက်ရောက်မဲပေးကြသော သုံးပုံနှစ်ပုံအောက်မလျော့သည့် အမတ်များ၏ ပြဋ္ဌာန်းအတည်ပြုချက်ဖြင့်၊ အထက်ပါလေးနှစ်ကာလကိုတနှစ်ပြီးတနှစ်ဆက်လက်၍တည်ရှိစေ နိုင်သည်။ ထို့ပြင်နိုင်ငံတော်သမတသည်၊ ဤအခြေခံဥပဒေရှိပုဒ်မ၅၇၌ပြဋ္ဌာန်းထားသည့်အတိုင်း ပြည်သူ့လွှတ်တော်ကို အခါမရွေးဖျက်သိမ်းနိုင်သည်။

၈၆။ ။ (၁) မည်သည့် ဘဏ္ဍာတော်နှစ်အတွက် မဆို၊ ပြည်ထောင်စုနိုင်ငံ၏ အရမှန်းခြေငွေ စာရင်းနှင့် အသုံး မှန်းခြေငွေစာရင်းကို ဤအခြေခံဥပဒေရှိ အခန်း ၇ အရ ပြည်သူ့လွှတ်တော်သို့ တင်ပြပြီးသည့်နောက်၊ ထိုမှန်းခြေ ငွေစာရင်းများကို လွှတ်တော်ကလျင်မြန်နိုင်သမျှ လျင်မြန်စွာ စဉ်းစားဆွေးနွေးရမည်။

(၂) သီးခြားဥပဒေပြုချက်ဖြင့် အထူးတလည် ပြဋ္ဌာန်းထားသောကိစ္စအတွက် မဟုတ်လျှင်၊ နှစ်အသီးသီး၏ ဘဏ္ဍာရေးဆိုင်ရာဆုံးဖြတ်ချက်များအတိုင်း ဆောင်ရွက်နိုင် ရန် လိုအပ်အပ်သောဥပဒေကို ထိုနှစ်အတွင်းတွင်ပြုရမည်။

(၃) မည်သည့်ကိစ္စအတွက် ငွေမည်မျှသုံးစွဲရမည်ဟု ပြည်သူ့လွှတ်တော်သို့ ပြည်ထောင်စု အစိုးရက အဆိုသွင်းခြင်းမပြုသမျှကာလပတ်လုံး ပြည်သူ့လွှတ်တော် သည် အခွန်တော်ကို သုံးစွဲရန်၊ သို့တည်းမဟုတ် ပြည်သူ့ငွေ များကိုသုံးစွဲရန် မဲဆန္ဒပေးခြင်းသော်၎င်း ဆုံးဖြတ်ပြဋ္ဌာန်း ခြင်းသော်၎င်းမပြုရ၊ တရားဥပဒေ ကိုလည်းမပြုရ။

## အပိုင်း (၃)

## လူမျိုးစုလွှတ်တော်

၈၇။ ။ ဤအခြေခံဥပဒေရှိတိယဇယား၌ခွဲဝေဖော်ပြထားသည့်အတိုင်း၊လူမျိုးစုလွှတ်တော်တွင် အမတ်နေရာ ၁၂၅ နေရာရှိရမည်။

၈၈။ ။ (၁) ပြည်သူ့လွှတ်တော်ကိုဖျက်သိမ်းပြီးသည်နှင့်တပြိုင်နက်၊လူမျိုးစုလွှတ်တော်လည်း ဖျက်သိမ်း ပြီးဖြစ်ရမည်။

(၂) လူမျိုးစုလွှတ်တော်အတွက် အမတ် ရွေးကောက်ပွဲကို ပြည်သူ့လွှတ်တော်ဖျက်သိမ်းပြီး နောက်၊ နောက်ထပ်ရွေးကောက်သော ပြည်သူ့လွှတ်တော်၏ ပဌမ အစည်းအဝေးကို ကျင်းပသည်မှစ၍၊ ၁၅ ရက်မြောက်နေ့ မလွန်မီကျင်းပပြီးဖြစ်စေရမည်။

၈၉။ ။ရွေးကောက်ပွဲပြီးသည့်နောက်၊လူမျိုးစုလွှတ်တော်၏ပဌမအကြိမ်အစည်းအဝေးကို၊ ဝန်ကြီးချုပ်၏ အကြံပေးချက်အရ နိုင်ငံတော်သမတကသတ်မှတ်သော နေ့ရက်တွင်ကျင်းပရမည်။

# အပိုင်း (၄)

## ပါလီမန်၏ အာဏာများ။

၉၀။ ။ဤအခြေခံဥပဒေရှိပြဋ္ဌာန်းချက်များနှင့်မဆန့်ကျင်စေဘဲပြည်ထောင်စုနိုင်ငံတွင်ဥပဒေပြု နိုင်သော အာဏာသည်၊ ပါလီမန်၌သာတည်ရှိရမည်။

ခြွင်းချက်။ ။သို့ရာတွင် ပါလီမန်၏ အက်ဥပဒေ တခုသည်၊ ထိုအက်ဥပဒေနှင့် သဘောကိုက်ညီသော နည်းဥပဒေများနှင့် စည်းမျဉ်းဥပဒေများကိုပြုစေရန်၊ ထို အက်ဥပဒေတွင်အထင်အရှားဖော်ပြထားသော သူတဦးဦး အားသော်၎င်း၊ သို့တည်းမဟုတ် အာဏာပိုင်တဦးဦးအား သော်၎င်း၊ အခွင့်အာဏာကို လွှဲအပ်နိုင်သည်။ ထိုနည်းဥပဒေ များနှင့် စည်းမျဉ်းဥပဒေများမှာ တရားဥပဒေကဲ့သို့ အာဏာ ရှိရမည်။ သို့ရာတွင် ထိုနည်းဥပဒေများနှင့် စည်းမျဉ်းဥပဒေ များကို ပါလီမန်ဆိုင်ရာလွှတ်တော်အသီးသီးသို့၊ ဆက်လက် ကျင်းပလတ္တံ့သောညီလာခံတွင် တင်သွင်းရမည်။ ထို့ပြင် အဆိုပါနည်းဥပဒေများအရ၊ သို့တည်းမဟုတ် စည်းမျဉ်း ဥပဒေများအရ အရေးယူဆောင်ရွက်ခဲ့ပြီးဖြစ်သော အမှု ကိစ္စ၏ ခိုင်လုံခြင်းကိုမထိခိုက်စေဘဲ၊ ထိုနည်းဥပဒေများနှင့် စည်းမျဉ်းဥပဒေများကို တင်သွင်းသည့်နေ့မှစ၍၊ သုံးလအတွင်းတွင် ပါလီမန်ဆိုင်ရာလွှတ်တော်နှစ်ရပ်လုံး၌ အဆို တင်သွင်းဆုံးဖြတ်၍ ပယ်ဖျက်နိုင်ရမည်။

၉၁။ ။သို့ရာတွင်ဒေသအလိုက်ကိုယ်ပိုင် အုပ်ချုပ်ခွင့်ရှိသည်ဟူသောရည်ရွယ်ချက်သဘော တရားကို အခြေခံ၍၊ တရားဥပဒေဖြင့် သတ်မှတ်ထားသော ဒေသ ဆိုင်ရာကိုယ်စားလှယ်အဖွဲ့ကများသို့၊ အုပ်ချုပ်ရေး ကိစ္စ၊ ယဉ်ကျေးမှုကိစ္စ၊ စီးပွါးရေးကိစ္စများအတွက် အထင်အရှား ဖော်ပြထားသော အာဏာများကို လွှဲပေးရန်၊ တရားဥပဒေ ဖြင့်ပြဋ္ဌာန်းချက်ပြုနိုင်သည်။ ထိုပြဋ္ဌာန်းချက်များပါဝင်သော တရားဥပဒေသည်၊ ထိုကိုယ်စားလှယ်အဖွဲ့များ၏ အခွင့်အရေးများ၊ အာဏာများနှင့် တာဝန်ဝတ်တရား များကို ၎င်း၊ ထိုအဖွဲ့များနှင့် ပါလီမန်တို့၏ ဆက်ဆံရေးကို၎င်း၊ ထိုအဖွဲ့များနှင့် ပြည်ထောင်စုအစိုးရတို့၏ ဆက်ဆံရေးကို ၎င်း သတ်မှတ်ရမည်။

၉၂။ ။(၁) တဆက်တည်းဖြစ်သော အောက် ပုဒ်မခွဲဖြင့်၊ ပြည်နယ်ကောင်စီများသို့ လုံးဝခွဲဝေ လွှဲအပ်သော ဥပဒေပြုအာဏာမှလွဲ၍၊ ပါလီမန်တွင်ပြည်ထောင်စု တနိုင်ငံလုံး အတွက်ဖြစ်စေ၊ ပြည်ထောင်စုနိုင်ငံ၏ တစိတ် တဒေသအတွက်ဖြစ်စေ၊ ဥပဒေများကိုပြုရန် အာဏာရှိ ရမည်။ဤပုဒ်မ၌ ရှေ့ကဖေါ်ပြခဲ့သော စည်းကမ်းချက်တို့၏ ယေဘုယျသဘောကို အချုတ်အချယ်မဖြစ်စေဘဲ၊ ထို့ပြင် သေချာသည်ထက် သေချာအောင်၊ တဆက်တည်းဖြစ်သော အောက်ပုဒ်မခွဲ၌ မည်သို့ပင်ဆိုထားစေကာမူ၊ ပါလီမန်၌ သာရှိသော ဥပဒေပြုမှုအခွင့်အာဏာသည် (ပြည်ထောင်စု ဥပဒေပြု စာရင်းဟု ဖေါ်ပြလတ္တံ့သော) ဤအခြေခံဥပဒေ၏ တတိယဇယားရှိစာရင်း ၁ တွင် သီးခြားရေတွက်ပြထားသောကိစ္စအားလုံးအပေါ်၌ သက်ရောက်ပြန့်နှံ့ရမည်ဟု ကျေညာ လိုက်သည်။အဆိုပါစာရင်းတွင်သီးခြားရေတွက်ဖေါ်ပြထားသော ဆောင်ရွက်ဖွယ် အကြောင်းအရာ အမျိုးအစားတခုခု၌ ပါဝင်နေသည့် ကိစ္စတခုခုသည်၊ တဆက်

တည်းဖြစ်သော အောက်ပုဒ်မခွဲဖြင့် ပြည်နယ်ကောင်စီများသို့ လုံးဝခွဲဝေ လွှဲအပ်ထားသည့်ပြည်နယ်ဒေသန္တရသဘောသက်ဝင်သော သို့တည်းမဟုတ်ပြည်နယ်တွင်း ရေးရာသဘော သက်ဝင်သော ဆောင်ရွက်ဖွယ်အကြောင်းအရာ စာရင်းတွင် ပါဝင်သည်ဟု မမှတ်မယူရ။

(၂) ပြည်နယ်ဥပဒေပြုစာရင်းဟု ဖေါ်ပြလတ္တံ့သော အဆိုပါဇယားရှိ စာရင်း၂ ၌ သီးခြားရေတွက်ပြ ထားသည့် ကိစ္စတခုခုနှင့်စပ်လျဉ်း၍၊ ပြည်နယ်အတွက်သော် ၄င်း၊ ပြည်နယ်၏တစိတ်တဒေသအတွက်သော်၄င်း၊ ဥပဒေများကိုပြုရန် ပြည်နယ်ကောင်စီ၌သာ အာဏာရှိရမည်။

(၃) မည်သည့်ပြည်နယ်ကောင်စီမဆို၊ မိမိ၏ နယ်မြေများကိုသော်၄င်း၊ အာဏာများကို သော်၄င်း၊ အခွင့်အရေးများကိုသော်၄င်း၊ ပြည်ထောင်စုနိုင်ငံသို့ ဆုံးဖြတ် ချက်ချ၍၊ ပြန်အပ်နိုင်သည်။

၉၃။ ။ပြည်ထောင်စုဥပဒေပြုစာရင်းတွင် သစ်တော ကိစ္စ၊ သတ္တုတွင်းကိစ္စ၊ ရေနံမြေကိစ္စ၊ သတ္တုတူးဖေါ်ပြုပြင်ရေး ကိစ္စစည်းမျဉ်းသတ်မှတ်ပိုင်ခွင့်ပါရှိသည် ဖြစ်သော ကြောင့်၊ ပြည်ထောင်စုနိုင်ငံက သုံးစွဲပိုင်ခွင့်ရှိသော အာဏာများကို သုံးစွဲရာ၌ထိုသစ်တောများ၊ သတ္တုတွင်းများ၊ ရေနံမြေများကို လုပ်ကိုင်သုံးစွဲစေရန် သော်၄င်း၊ တိုးတက်အောင် ပြုစေရန်သော်၄င်း၊ အသုံးချ စေရန်သော်၄င်း လက်မှတ်ကို၊ သို့တည်းမဟုတ် လိုင်စင်ကို သို့တည်းမဟုတ် အခွင့်အာဏာ လွှဲအပ်သော အခြားနည်း ကိုထုတ်မပေးမီ၊ ထိုသို့ထုတ်ပေး သော အာဏာပိုင်သည်၊ သက်ဆိုင်ရာ ပြည်နယ်အတွက် ခန့်ထားခြင်းခံရသော ပြည်ထောင်စုအစိုးရအဖွဲ့ဝင် ဝန်ကြီးနှင့် ညှိနှိုင်း တိုင်ပင်ရမည်။

၉၄။ ။(၁) စစ်ကြောင့်ဖြစ်စေ၊ နိုင်ငံတွင်ဆူပူမှုကြောင့်ဖြစ်စေ၊ ပြည်ထောင်စုနိုင်ငံ၏တည်တံ့မှုကို အန္တရာယ်ဖြစ်စေအံ့သော အထူးအရေးတကြီး အခြေဖြစ် ပေါ်နေပြီဟူ၍သော်၄င်း၊ ပြည်ထောင်စုနိုင်ငံကို ထိခိုက် နေသောစီးပွါးရေး အရေးတကြီးအခြေသည်၊ ပြည်ထောင်စု နိုင်ငံ၏ တစိတ်တဒေသ၌ ပေါ်ပါက်နေပြီးဟူ၍ သော်၄င်း၊ နိုင်ငံတော်သမတက (ဤအခြေခံဥပဒေတွင် အရေးတကြီး ကျေညာချက်ဟု ညွှန်းထားသော) ကျေညာချက် တရပ်ကို ထုတ်ပြန်ခဲ့သော်၊ ပုဒ်မ ၉၂ တွင်မည်သို့ပင် ဆိုထားစေကာမူ၊ ပြည်နယ်ဥပဒေပြုစာရင်းတွင် သီးခြား ရေတွက်ဖေါ်ပြထား သော ကိစ္စတခုခုနှင့် စပ်လျဉ်း၍၊ ပြည်နယ်တနယ်အတွက် သော်၄င်း၊ ပြည်နယ်၏ တစိတ်တဒေသအတွက် သော်၄င်း၊ ဥပဒေများကိုပြုရန် ပါလီမန်တွင်အာဏာရှိရမည်။

(၂) ဤအခြေခံဥပဒေအရ၊ ဥပဒေပြုရန်အာဏာရှိသောပြည်နယ်ကောင်စီ၏အာဏာကို၊ ဤပုဒ်မရှိစကားကြောင့်၊ ချုတ်ချယ်ခြင်းမပြုရ၊ သို့ရာတွင်ပြည်နယ် တရားဥပဒေ၏ ပြဋ္ဌာန်းချက်တခုခုသည်၊ ဤပုဒ်မအရဥပဒေပြုရန် အာဏာရှိသော ပါလီမန်၏ ပြည်ထောင်စု တရားဥပဒေရှိ ပြဋ္ဌာန်းချက်တခုခုနှင့် ဆန့်ကျင်နေခဲ့သော်၊ ပြည်နယ် တရားဥပဒေကိုသာလျှင် လိုက်နာရမည်။ ပြည်နယ်တရား ဥပဒေသည်ပြည်ထောင်စု တရားဥပဒေ အတည်ဖြစ်နေခိုက်၊ ပြည်ထောင်စုတရားဥပဒေနှင့် ဆန့်ကျင်သမျှသာ၊

အာဏာပျက်ပြယ်နေစေရမည်။

(၃) အရေးတကြီးကျေညာချက်ကို -

(က) နောက်ထပ်ကျေညာချက် တရပ်ထုတ်ပြန်၍ ရုပ်သိမ်းနိုင်သည်။

(ခ) ခြောက်လအချိန်ကာလမကုန်ဆုံး မီ၊ ပါလီမန်ဆိုင်ရာ လွှတ်တော် နှစ်ရပ်လုံးက ဆုံးဖြတ်ပြဋ္ဌာန်း၍ အတည်မပြုလျှင်၊ ထိုခြောက်လအချိန်ကာလ ကုန်ဆုံးသော် အခါ၊ ထိုကျေညာ ချက်သည် အာဏာ တည်ခြင်းမှ ရပ်စဲရမည်။

ခြွင်းချက်။ ။သို့ရာတွင် ထိုကျေညာချက် အာဏာဆက်လက်တည်နေစေရန် သဘောတူသော ဆုံးဖြတ်ပြဋ္ဌာန်းချက်ကို၊ ပါလီမန်ဆိုင်ရာလွှတ်တော်နှစ်ရပ် လုံးကွတည်ပြုလျှင်၊ ထို့ပြင်အတည်ပြုတိုင်း၊ ထိုကျေညာ ချက်သည် ရုပ်သိမ်းခြင်းမခံရသေးသမျှ၊ ဤပုဒ်မခွဲအရ၊ ထိုကျေညာချက်အာဏာ တည်နေခြင်းမှ ရပ်စဲရမည့်နေ့မှ စ၍၊ နောက်ထပ် ၁၂ လကာလအတွက်ဆက်လက်အာဏာ တည်ရမည်။

(၄) အရေးတကြီး ကျေညာချက်ထုတ်ပြန်ခြင်း ကြောင့်သာလျှင် ပါလီမန်ကပြုပိုင်ခွင့်ရှိ၍ ထိုပြုပိုင်ခွင့်နှင့်အညီပြုထားသောတရားဥပဒေသည်၊ထိုကျေညာချက် အာဏာတည်ခြင်းမှ ရပ်စဲပြီးသည့်နောက်ခြောက်လ အချိန်ကာကုန်ဆုံးသောအခါ၊ အဆိုပါအချိန်ကာလ မကုန်ဆုံးခင်ကပြုပြီးသော၊ သို့တည်းမဟုတ် မပြုဘဲချိန်ခဲ့ သောအရာများနှင့် စပ်လျဉ်း၍မှတပါး၊ အကျိုးမသက် ရောက်ရ။

၉၅။ ။ ပြည်နယ်နှစ်နယ်၏၊ သို့တည်းမဟုတ် နှစ်နယ်ထက်ပိုသော ပြည်နယ်များ၏ ပြည်နယ်ကောင်စီ များသည်၊ ပြည်နယ်ဥပဒေပြုစာရင်းတွင် သီးခြားရေတွက် ဖော်ပြထားသောကိစ္စတခုခုအတွက် ပါလီမန်၏အက်ဥပဒေ ဖြင့်၊ ထိုပြည်နယ်များတွင် စည်းမျဉ်းသတ်မှတ်ပေးသင့်သည် ဟူသောအချက်ကို အလိုရှိထိုက်သည်ဟုထင်မြင်ခဲ့သော်၊ ထို့ပြင်ထိုပြည်နယ်ကောင်စီများက၊ ထိုသို့အလိုရှိသည်ဟု ဆုံးဖြတ်အတည်ပြုခဲ့သော်၊ ပါလီမန်သည်၊ ထိုသို့ပြဋ္ဌာန်း လိုက်သောအက်ဥပဒေကို ထိုအက်ဥပဒေနှင့် သက်ဆိုင်သည့် ပြည်နယ်တနယ်နယ်နှင့် စပ်လျဉ်း၍။ ထိုပြည်နယ် ကောင်စီ၏အက်ဥပဒေကပြင်နိုင်သည်။ သို့တည်းမဟုတ် ရုပ်သိမ်းနိုင်သည်။

၉၆။ ။(၁) ဤအခြေခံဥပဒေရှိ စတုတ္ထဇယား ၌ရေတွက်ဖော်ပြထားသော အခွန်ထွက် ပင်ရင်း များမှ ရမည့် အခွန်တော်အားလုံးသည် ပြည်နယ်၌သော်၎င်း၊ ပြည်နယ်ကသော်၎င်း၊ ကောက်ခံရရှိသော ပြည်နယ်၏ အခွန်တော်ငွေ တွင်ပါဝင်ရမည်။

(၂) တဆက်တည်းဖြစ်သောအထက်ပုဒ်မခွဲအရ၊ပြည်နယ်များသို့ခွဲဝေ၊လွှဲအပ်ထားသော အခွန် တော်များမှလွဲ၍၊အခွန်တော်အားလုံးသည်၊ ပြည်ထောင်စုနိုင်ငံ၏အခွန်တော်တွင် ပါဝင်ရမည်။

ခြွင်းချက်။ ။ဤကိစ္စအတွက်ခန့်ထားသော အဖွဲ့တခုခု၏ သို့တည်းမဟုတ် အခြားအာဏာပိုင်တခုခု၏ ထောက်ခံချက်များ အရ ထောက်ပံ့ရန် လိုအပ်သည်ဟု ဆုံးဖြတ်သတ်မှတ်သော အထောက်အပံ့ငွေများကို၊ ပြည်ထောင်စုနိုင်ငံတော်အစိုးရသည် မိမိ၏ အခွန်တော်များ မှထုတ်၍၊ ပြည်ထောင်စုအဖွဲ့ဝင်များ၏ အခွန်တော်များကို ဖြည့်တင်းသောအားဖြင့်၊ ထိုပြည်ထောင်စုအဖွဲ့ဝင်များ၏ အစိုးရများအားပေးနိုင်သည်။

၉၇။ ။ (၁) ကုန်းတပ်၊ရေတပ်၊လေတပ်ဖွဲ့စည်းထားရှိသောအခွင့်အရေးသည်၊ ပါလီမန်၌သာ တည်ရှိ

ရမည်။

(၂) ပါလီမန်ကဖွဲ့စည်းထားရှိသော ကုန်းတပ်၊ ရေတပ်၊ လေတပ်များမှတပါး မည်သည့်ကုန်းတပ်၊ ရေတပ်၊ လေတပ်ကိုမျှသော်၎င်း၊ မည်သည့် စစ်တပ် အစည်းအရုံးကို မျှသော်၎င်း၊ စစ်တပ်သဘောအချို့ဝက်ပါသော မည်သည့် အစည်းအရုံးကိုမျှသော်၎င်း၊ မည်သည့်အကြောင်း ကိစ္စနှင့်မျှ၊ မဖွဲ့မစည်းမထားရှိရ။ သို့ရာတွင် ငြိမ်ဝပ်ပိပြားရေး ဆိုင်ရာတာဝန်ဝတ်တရားသက်သက်ကိုသာ ဆောင်ရွက်စေ ရန် ပြည်ထောင်စုအဖွဲ့ဝင်တခုခု၏ အခွင့်အာဏာအရ ထားရှိသောရာဇဝတ် အမှုထမ်းအဖွဲ့ကိုမူကား ဖွဲ့စည်းထား ရှိနိုင်သည်။

## အပိုင်း (၅)

## ဥပဒေပြုခြင်း။

၉၈။ ။ ပြည်သူ့လွှတ်တော်တွင် စတင်တင်သွင်း ၍၊ ထိုလွှတ်တော်ကပင်အတည်ပြုလိုက်သော ဥပဒေကြမ်း တိုင်းကို၊ လူမျိုးစုလွှတ်တော်သို့တင်ပို့ရမည်။ ထိုဥပဒေကြမ်း သည် ငွေဥပဒေကြမ်း မဟုတ်လျှင်၊ လူမျိုးစုလွှတ်တော်က ပြင်ဆင်ချက်ပြုနိုင်၍ ပြည်သူ့လွှတ်တော်သို့ စဉ်းစားဆွေးနွေး စေရန် တင်ပို့နိုင်သည်။

၉၉။ ။ ငွေဥပဒေကြမ်းမျိုးမှတပါး၊ အခြားဥပဒေ ကြမ်းတိုင်းကိုလူမျိုးစုလွှတ်တော်တွင် စတင်တင်သွင်း နိုင်၍၊ ထိုလွှတ်တာ်က အတည်ပြုလိုက်လျှင်၊ ပြည်သူ့လွှတ်တော်သို့ တင်ပို့ရမည်။ ပြည်သူ့လွှတ်တော်ကပြင်ဆင်ချက်ပြုနိုင်၍၊ လူမျိုးစုလွှတ်တော်သို့၊ စဉ်းစားဆွေးနွေးစေရန်၊ ပြန်ပို့နိုင်သည်။

၁၀၀။ ။ လွှတ်တာ်တရပ်က အတည်ပြုလိုက်၍၊ အခြားလွှတ်တော်ကလက်ခံသောဥပဒေကြမ်းကို၊ပါလီမန် ဆိုင်ရာလွှတ်တော်နှစ်ရပ်လုံးက၊ အတည်ပြုသည်ဟု မှတ်ယူ ရမည်။

၁၀၁။ ။ အစိုးရ၏သာမန်နှစ်စဉ် အသုံးစရိတ်များ အတွက်၊ အခွန်တော်ကို၊ သို့တည်းမဟုတ်ငွေကို သတ်မှတ် ခွဲဝေပေးသောဥပဒေကြမ်းသည်၊ ထိုသို့သတ်မှတ်ခွဲဝေပေး သောအချက်များနှင့်သာလျှင်၊ သက်ဆိုင်ရမည်။

၁၀၂။ ။အခွန်စည်းကြပ်ရေးဆိုင်ရာဥပဒေကြမ်း များသည်၊ အခွန်စည်းကြပ်သော အချက်များနှင့်သာ သက်ဆိုင်ရမည်။ ထိုဥပဒေကြမ်းများ၌ပါရှိသည့် အခြားကိစ္စ များဆိုင်ရာပြဋ္ဌာန်းချက်များကို အကျိုးသက်ရောက်ခြင်း မဖြစ်စေရ။

## ငွေဥပဒေကြမ်းများ။

၁၀၃။ ။ ငွေဥပဒေကြမ်းများကို၊ ပြည်သူ့လွှတ်တော် ၌သာလျှင်၊ စတင်တင်သွင်းရမည်။

၁၀၄။ ။ ပြည်သူ့လွှတ်တော်ကအတည်ပြုလိုက်သောငွေဥပဒေကြမ်းတိုင်းကို လူမျိုးစုလွှတ်တော်သို့၊ အကြံ ပေးစေရန်တင်ပို့ရမည်။

၁၀၅။ ။ (၁) လူမျိုးစုလွှတ်တော်သို့ အကြံပေးစေ ရန်တင်ပို့သော ငွေဥပဒေကြမ်းတိုင်းကို၊ ထိုလွှတ်တော်သို့ တင်ပို့ပြီးသည့်နောက် ၂၁ ရက်အတွင်းတွင်၊ ပြည်သူ့ လွှတ်တော်သို့ပြန်ပို့ရမည်။ ပြည်သူ့လွှတ်တော်သည်၊ လူမျိုးစု လွှတ်တော်၏အကြံပေးချက်အားလုံးကိုသော်၎င်း၊

အချို့ကို သော်၎င်း၊ လက်ခံနိုင်သည်၊ သို့တည်းမဟုတ် ပယ်နိုင်သည်။

(၂) ထိုကဲ့သို့သောငွေဥပဒေကြမ်းကို၊ လူမျိုးစုလွှတ်တော်ကပြည်သူ့လွှတ်တော်သို့ ၂၁ရက်အတွင်းတွင် ပြန်မပို့လျှင်၊ သို့တည်းမဟုတ် ပြည်သူ့လွှတ်တော်က လက်မခံသောအကြံပေးချက်များဖြင့်၊ ထို ၂၁ ရက်အတွင်း တွင်ပြန်ပို့လျှင်၊ ထိုငွေဥပဒေကြမ်းသည် ၂၁ ရက်ကုန်ဆုံး သောအခါ၊ လွှတ်တော်နှစ်ရပ်လုံး၏ အတည်ပြုချက်ကို ရသည်ဟုမှတ်ယူရမည်။

၁၀၆။ ။ (၁) ငွေဥပဒေကြမ်းဟူသည်မှာ၊ အောက်ပါကိစ္စများအားလုံးနှင့်သော်၎င်း၊ တခုခုနှင့်သော်၎င်း၊ သက်ဆိုင်သည့် ပြဋ္ဌာန်း ချက်များသာ ပါဝင်သော ဥပဒေကြမ်းကိုဆိုလိုသည်။ ထိုကိစ္စများကား အခွန်တော် စည်းကြပ်ခြင်း၊ အခွန်တော်ရုပ်သိမ်းခြင်း၊ အခွန်တော်ချမ်းသာခွင့် ပေးခြင်း၊ အခွန်တော်စံနစ်ပြောင်းခြင်း၊ အခွန်တော်စံနစ်စည်းမျဉ်းသတ်မှတ်ခြင်း၊ သို့တည်းမဟုတ် ကြွေးမြီပေးဆပ်ခြင်းအတွက်သော်၎င်း၊ အခြား ဘဏ္ဍာရေးကိစ္စများအတွက်သော်၎င်း၊ ပြည်ထောင်စုနိုင်ငံ၏ အခွန်တော်မှ ကျခံစေရန်သတ်မှတ်ခြင်း၊ ထိုသို့သော သတ်မှတ်ချက်ကိုပြင်ခြင်း၊ ထိုသို့သော သတ်မှတ်ချက်ကို ရုပ်သိမ်းခြင်း၊ သို့တည်းမဟုတ်ခွင့်ပြုရန်ပုံငွေသတ်မှတ်ခြင်း၊ သို့တည်း မဟုတ် ဘဏ္ဍာတော်ငွေခွဲဝေသုံးစွဲခြင်း၊ လက်ခံခြင်း၊ ထိန်းသိမ်းခြင်း၊ ထုတ်ပေးခြင်း၊ စာရင်းစစ်ဆေး ခြင်း၊ သို့တည်းမဟုတ် ငွေချေးယူခြင်း၊ ချေးယူငွေအတွက် အာမခံခြင်း၊ ချေးယူငွေကိုပြန်ဆပ်ခြင်း၊ ထိုကိစ္စများနှင့်သော်၎င်း၊ ထိုကိစ္စတရပ် ရပ်နှင့်သော်၎င်း၊ ဆက်သွယ်၍ ဖြစ်ပေါ်လာသော ကိစ္စများဖြစ်သည်။

(၂) အထက်ပါ်ပုဒ်မခွဲရှိ ''အခွန်တော်စည်းကြပ် ခြင်း''၊ ''ပြည်ထောင်စုနိုင်ငံ၏ အခွန်တော်''၊ ''ချေးယူငွေ'' ဟူသောစကားရပ်အသီးသီး၏ အဓိပ္ပါယ်တွင်၊ ဒေသန္တရ ဆိုင်ရာကိစ္စများအတွက်၊ ဒေသန္တရဆိုင်ရာအာဏာပိုင်များ ကသော်၎င်း၊ အဖွဲ့များကသော်၎င်း၊ စည်းကြပ်သောအခွန် သို့တည်းမဟုတ် ကောက်ခံသောဘဏ္ဍာငွေ သို့တည်း မဟုတ် ချေးငွေ၊ မပါချေ။

၁၀၇။ ။ (၁) ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌသည်၊ မိမိ၏ထင်မြင်ချက်တွင်၊ ငွေဥပဒေကြမ်းဟုယူဆသောမည်သည့်ဥပဒေကြမ်းကိုမဆို၊ ငွေဥပဒေကြမ်းဟုတ်မှန်ကြောင်း ထောက်ခံချက်ပေးရ မည်။ ဤပုဒ်မတွင်ဆက်လက် ပါရှိသည့် ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်လျှင်၊ထို ထောက်ခံချက်သည် အပြီးအပြတ်အတည်ဖြစ်ရမည်။

(၂) ဥပဒေကြမ်းတခုအား ငွေဥပဒေကြမ်း ဟုတ်မဟုတ် အခွင့်အရေးကော်မီတီသို့ တင်ပြစဉ်းစား စေရန် လူမျိုးစုလွှတ်တော်သည်၊ အမတ်စုစုပေါင်း၏ သုံးပုံနှစ်ပုံအောက် မလျော့သောအမတ်များ တက်ရောက်သည့် အစည်းအဝေးတခုတွင် အတည်ပြုသော ဆုံးဖြတ် ပြဋ္ဌာန်းချက်ဖြင့်၊ နိုင်ငံတော်သမတအား ပန်ကြားနိုင်သည်။

(၃) နိုင်ငံတော်သမတသည်၊မိမိ၏သဘောအတိုင်း၊ထိုပန်ကြားချက်ကိုလိုက်လျောရန်ဆုံးဖြတ်လျှင်၊ အခွင့်အရေးကော်မီတီတခုကိုခန့်ရမည်။ ထိုကော်မီတီတွင်ပြည်သူ့လွှတ်တော်နှင့် လူမျိုးစုလွှတ်တော်တို့မှအမတ်ဦးရေ အညီအမျှပါဝင်ရမည့်အပြင်၊ တရားလွှတ်တော်ချုပ်မှ တရားဝန်ကြီးတဦးကိုလည်း၊ သဘာပတိအဖြစ်ဖြင့်ခန့် ရမည်။ မဲဆန္ဒအရေ

အတွက်ချင်းတူညီနေသော ကိစ္စ၌သာ လျှင် သဘာပတိ၌ မဲဆန္ဒပေးပိုင်ခွင့်ရှိရမည်။

(၄) ထိုသို့ခန့်လိုက်သောအခွင့်အရေးကော်မီတီ သို့ နိုင်ငံတော်သမတသည်၊ ထိုပြဿနာကို ပေးပို့ထောက် လှမ်းရမည်။ ဥပဒေကြမ်းကိုလူမျိုးစုလွှတ်တော်သို့ ပေးပို့ ပြီးသည့်နောက် တနေ့မှစ၍ ၂၁ ရက်အတွင်းတွင် ထိုကော်မီတီသည် မိမိ၏ယူဆချက်ကို နိုင်ငံတော် သမတထံ သို့ တင်သွင်းအစီရင်ခံရမည်။

(၅) အစီရင်ခံချက်ကိုအခြေပြု၍ နိုင်ငံတော် သမတက မိမိ၏သဘောအတိုင်းချမှတ်သော ဆုံးဖြတ်ချက် သည်၊ အပြီးအပြတ်အတည်ဖြစ်ရမည်။

၁၀၈။ ။နိုင်ငံတော်သမတသည် လူမျိုးစုလွှတ်တော် ၏ပန်ကြားချက်ကို မလိုက်လျောပဲ မိမိ၏ သဘောအတိုင်း ဆုံးဖြတ်လျှင်၊ သို့တည်းမဟုတ် အခွင့်အရေးကော်မီတီသည် အထက်ပါ သတ်မှတ်ထားသော အချိန်အတွင်းတွင်အစီရင်ခံ ရန်ပျက်ကွက်လျှင်၊ ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌ၏ ဟုတ်မှန် ကြောင်းထောက်ခံချက်သည် အတည်ဖြစ်မြဲဖြစ်ရမည်။

၁၀၉။ ။လွှတ်တော်တရပ်က အခြားဥပဒေကြမ်း တခုခုကိုအတည်ပြုလိုက်၍၊ အခြားလွှတ်တော်က ထိုဥပဒေ ကြမ်းကိုပယ်ချလျှင်၊ သို့တည်းမဟုတ် အတည်ပြုရန်ပျက် ကွက်လျှင်၊ သို့တည်းမဟုတ် ထိုဥပဒေကြမ်းကိုစတင်တင် သွင်းသည့်လွှတ်တော်က လက်မခံသော ပြင်ဆင်ချက်များ ဖြင့်အတည်ပြု လိုက်လျှင်၊ နိုင်ငံတော်သမတသည် လွှတ်တော်နှစ်ရပ်၏ တွဲဖက်အစည်းအဝေးကို ကျင်းပစေ ရမည်။ တွဲဖက်အစည်းအဝေးသို့တက်ရောက်ကြသော လွှတ်တော်အမတ်များသည်၊ ဥပဒေကြမ်းကိုစတင် တင်သွင်းသော လွှတ်တော်ကအတည်ပြုလိုက်သည့် ဥပဒေကြမ်းနှင့်တကွ၊ အခြားလွှတ်တော်က ပြုပြီးဖြစ်သောပြင်ဆင်ချက်များရှိလျှင်ထိုပြင်ဆင်ချက်များရှိလျှင်ထိုပြင်ဆင်ချက်များကိုပါ၊ စဉ်စားဆွေးနွေး နိုင်၍ မဲဆန္ဒပေး ရမည်။အကယ်၍အစည်းအဝေးသို့တက်ရောက်မဲပေး ကြသောလွှတ်တော် နှစ်ရပ် အမတ်စုစုပေါင်း၏အမတ်များ ရာက၊ ပြင် ဆင်ချက်များပါလျှင်၊ ထိုပြင်ဆင်ချက်များပါသော ဥပဒေကြမ်းကို အတည်ပြုလိုက်သော်၊ ထိုဥပဒေကြမ်းသည် လွှတ်တော်နှစ်ရပ်လုံး၏ အတည်ပြုခကျ်ကိုရယူပြီးဟု မှတ်ယူ ရမည်။

ခြွင်းချက်။ ။သို့ရာတွင် တွဲဖက်အစည်းအဝေး၌ -

(က) လွှတ်တော်တရပ်က အတည်ပြုပြီးဖြစ်သောဥပဒေကြမ်းကို၊ အခြားလွှတ်တော်က ပယ်ချ၍၊ စတင်တင်သွင်းသောလွှတ်တော် သို့ ပြန်ပို့လျှင်၊ ထိုဥပဒေကြမ်းကို အတည် ပြုရန်အချိန်ကြန့်ကြာသောကြောင့် ပြုအပ် သောပြင်ဆင်ချက်များမှတပါး၊ အခြား မည်သည့်ပြင်ဆင်ချက်အဆိုကိုမျှ မတင် သွင်းရ။

(ခ) ဥပဒေကြမ်းကို အခြားလွှတ်တော်တရပ်က ပြင်ဆင်ချက်များထည့်၍ အတည်ပြုပြီးနောက် စတင်တင်သွင်းသောလွှတ်တော် သို့ ပြန်ပို့လျှင်မူကား၊ အပိုဒ် (က) တွင် ဖေါ်ပြခဲ့သောပြင်ဆင်ချက်အဆိုများနှင့် လွှတ်တော်နှစ်ရပ်သဘောကွဲလွဲသည့် အချက်များနှင့် ဆိုင်သောပြင်ဆင်ချက် အဆိုများကိုသာ တင်သွင်းရမည်။ထို့ပြင်၊ ဤပုဒ်မအရခွင့်ပြုထိုက်သော ပြင်ဆင်ချက် များနှင့် စပ်လျဉ်း၍၊ သဘာပတိအဖြစ်ဖြင့် ဆောင်ရွက်သော သူ၏

ဆုံးဖြတ်ချက်သည် အပြီးအပြတ်ဖြစ်ရမည်။

၁၁၀။ ။ (၁) ပါလီမန်ဆိုင်ရာလွှတ်တော် နှစ်ရပ် လုံး၏ ညီလာခံမရှိခိုက်၊ မည်သည့်အခါမျိုး၌ မဆို၊ နိုင်ငံတော် သမတသည်၊ ချက်ခြင်းအရေးယူဆောင်ရွက်ရန် လိုအပ် သောကိစ္စများ ပေါ်ပေါက်လာသည်ဟု ယူဆလျှင်၊ ထိုကိစ္စ များပေါ်ပေါက်လာသည့်အလျောက် လိုအပ်သည်ဟု ထင်မြင်သော တချက်လွှတ်ဥပဒေများကို ထုတ်ပြန်ကြေညာ နိုင်သည်။ ဤပုဒ်မအရ ထုတ်ပြန်ကြေညာသောတချက် လွှတ်ဥပဒေသည်၊ နိုင်ငံတော်သမတကသဘောတူပြီး ဖြစ်သော ပါလီမန်၏အက်ဥပဒေကဲ့သို့၊ အကျိုးသက်ရောက် ၍ အတည်ဖြစ်ရမည်။

(၂) ထိုကဲ့သို့သောတချက်လွှတ် ဥပဒေတိုင်း ကို ကြိုတင်နုတ်သိမ်းထားပြီးမဟုတ်လျှင်၊ ထုတ်ပြန်ကြေညာ သည့်နေ့မှစ၍၊ ၄၅ ရက်အတွင်း၌၊ နိုင်ငံတော်သမတသည် ထိုတချက်လွှတ်ဥပဒေကို ပါလီမန်ဆိုင်ရာလွှတ်တော်နှစ်ရပ် လုံးသို့တင်ပြရမည်။ ပြည်သူ့လွှတ်တော်ပြန်လည်စည်းဝေး သည့်နေ့မှ၁၅ ရက်ကုန်လွန်သောအခါ၌ဖြစ်စေ၊ လူမျိုးစုလွှတ်တော်ပြန်လည်စည်းဝေးသော နေ့မှ ၁၅ ရက် ကုန်လွနသောအခါ၌ဖြစ်စေ၊ နောက်ကျရာနေ့တွင်၊ ထို တချက်လွှတ်ဥပဒေသည် အတည်ဖြစ်နေခြင်းမှရပ်စဲ ရမည်။

ခြွင်းချက်။ ။သို့ရာတွင် နိုင်ငံတော်သမတသည်၊ ပါလီမန်ဆိုင်ရာလွှတ်တော်နှစ်ရပ်လုံး၏ သဘောတူညီချက်ဖြင့်၊ ထိုတချက်လွှတ်ဥပဒေကို၊ လိုအပ်သော ကာလအပိုင်းအခြားအထိ၊ ဆက်လက်အတည်ဖြစ်စေနိုင်သည်။

(၃) တချက်လွှတ်ဥပဒေထုတ်ပြန် ကြေညာသည့် နေ့မှစ၍ ၄၅ ရက်အတွင်း၌ နုတ်သိမ်းပြီးဖြစ်လျှင်၊ ထိုတချက်လွှတ်ဥပဒေကို ပါလီမန်သို့၊ ဆက်လက်ကျင်းပလတ္တံ့သောညီလာခံတွင် တင်ပြရမည်။

(၄) ဤပုဒ်မအရ၊ တချက်လွှတ်ဥပဒေတခုတွင်၊ ဤအခြေခံဥပဒေအရ၊ ပါလီမန်ကမပြုပိုင်သော ပြဋ္ဌာန်းချက်ပါရှိလျှင်၊ ပါရှိသောထိုပြဋ္ဌာန်းချက်သည် ပျက်ပြယ်ရမည်။

## လက်မှတ်ထိုးခြင်းနှင့် ထုတ်ပြန်ကြေညာခြင်း။

၁၁၁။ ။(၁) ဥပဒေကြမ်းတခုကို ပါလီမန်ဆိုင်ရာလွှတ်တော်နှစ်ရပ်လုံးက အတည်ပြုလိုက်သည်နှင့်တပြိုင်နက်၊ ထိုဥပဒေကြမ်းကို ဤပုဒ်မရှိ ပြဋ္ဌာန်းချက်များနှင့် အညီ လက်မှတ်ရေးထိုးရန်နှင့် အက်ဥပဒေတရပ်အဖြစ်ဖြင့် ထုတ်ပြန်ကြေညာရန်၊ ထိုဥပဒေကြမ်းကို နိုင်ငံတော်သမတထံသို့ တင်ပြရမည်။

(၂) ဤအခြေခံဥပဒေ၌၊ အခြားပြဋ္ဌာန်းချက် ပြုထားခြင်းမရှိလျှင်၊ မိမိထံသို့တင်ပြသော ဥပဒေကြမ်းတိုင်းကို နိုင်ငံတော်သမတသည်၊ တင်ပြပြီးသည့်နောက်တနေ့မှစ၍ ၇ရက် အောက်နောက်မကျစေဘဲ၊ လက်မှတ် ထိုးရမည်။

(၃) ဥပဒေကြမ်းတခုခုကို နိုင်ငံတော်သမတသည်၊ မိမိထံသို့တင်ပြပြီးသည့် နောက်တနေ့မှစ၍ ၇ရက် အတွင်း၌၊ လက်မှတ်မထိုးလျှင်၊ ထိုဥပဒေကြမ်းသည်၊ ၇ရက်မြောက်သောနေ့တွင်၊ နိုင်ငံတော်သမတ၏လက်မှတ် ရေးထိုးချက်ကို ရပြီးဘိသကဲ့သို့အက်ဥပဒေဖြစ်လာရမည်။

၁၁၂။ ။(၁) ဤအခြေခံဥပဒေအရ၊ နိုင်ငံတော် သမတကလက်မှတ်ထိုးသော၊ သို့တည်းမဟုတ်

လက်မှတ်ရေးထိုးပြီး သည်ဟုမှတ်ယူအပ်သောဥပဒေကြမ်းတိုင်းသည်၊ ဥပဒေကြမ်းကို လက်မှတ်ထိုးသော၊ သို့တည်းမဟုတ် လက်မှတ်ထိုးပြီးသည်ဟု မှတ်ယူအပ်သာနေ့မှစ၍ အက်ဥပဒေဖြစ်လာရမည်။

(၂) ထိုကဲ့သို့သောအက်ဥပဒေတိုင်းကို၊ နိုင်ငံတော်သမတ၏အမိန့်အရ၊ အစိုးရပြန်တမ်းတွင် ထုတ်ပြန်ကျေညာ ရမည်။ ထိုအက်ဥပဒေ၌၊ သီးခြားညွှန်ကြားချက်မပါလျှင်၊ ထုတ်ပြန်ကျေညာသောနေ့၌ အာဏာတည်ရမည်။

၁၁၃။ ။ နိုင်ငံတော်သမတ လက်မှတ်ထိုးသော အက်ဥပဒေများနှင့် တချက်လွတ်ဥပဒေများ၏ စာမူများကို တရားလွှတ်တော်ချုပ်၏ အတွင်းဝန်ရုံးတွင်မော်ကွန်းတင် ရမည်။ ထိုစာမူများသည် အဆိုပါအက်ဥပဒေ၏သို့တည်းမဟုတ်တချက်လွတ်ဥပဒေ၏ပြဋ္ဌာန်းချက်များအတွက်၊ အပြီးသတ်သက်သေ အထောက်အထားဖြစ်ရမည်။

## အပိုင်း (၆)

## ရွေးကောက်ပွဲများ[၁]

၁၁၃-က။ ။ ရွေးကောက်ပွဲအရပ်ရပ်အတွက် မဲစာရင်းများပြုလုပ်ခြင်းနှင့်၄င်း၊ ပါလီမန် ရွေးကောက်ပွဲများ ကျင်းပခြင်းနှင့်၄င်း၊ ဤအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များကို သို့တည်းမဟုတ် ပါလီမန် ဆိုင်ရာ လွှတ်တော်နှစ်ရပ်လုပ်ငန်းစဉ် နည်းဥပဒေများကို၊ သို့တည်းမဟုတ် ၁၉၄၉ ခုနှစ်၊ နိုင်ငံတော်သမ္မတ ရွေးကောက်တင်မြှောက်မှုအက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေဘဲ၊ အခြားတရားဥပဒေတစ်ခုခု အရရွေးကောက်ပွဲများကျင်းပခြင်းနှင့်လည်းကောင်း စပ်လျဉ်း၍ ကြီးကြပ်ရေး၊ ညွှန်ကြားရေးနှင့် အုပ်ချုပ်ရေးအာဏာတို့သည် ပုဒ်မ ၁၁၃-ခအရ ဖွဲ့စည်းထားသော ရွေးကောက်ပွဲကော်မရှင်၌ တည်ရှိရမည်။

၁၁၃-ခ။။(၁) ပါလီမန်ဆိုင်ရာ လွှတ်တော်နှစ်ရပ်တွဲဖက်အစည်းအဝေး၏ သဘောတူချက်ကိုရယူ၍၊ နိုင်ငံတော်သမ္မတကိုယ်တိုင် လက်မှတ်ရေးထိုးတံဆိပ်ခတ်နှိပ်သည့် အမိန့်စာဖြင့်ခန့်ထားသော ရွေးကောက်ပွဲမင်းကြီးချုပ်နှင့် အခြားလေးဦးထက်မပိုသော ရွေးကောက်ပွဲမင်းကြီးများပါဝင်သော ရွေးကောက်ပွဲကော်မရှင်တစ်ခုကို ဖွဲ့စည်းရမည်။

(၂) ရွေးကောက်ပွဲမင်းကြီးချုပ်နှင့် ရွေးကောက်ပွဲမင်းကြီးများကို ပါလီမန်ဖျက်သိမ်းထားသည့်အခါတွင် ခန့်အပ်ရန်လိုပါက၊ နိုင်ငံတော်သမ္မတက ခန့်ထားနိုင်ရမည်။ သို့ရာတွင် အဆိုပါ ခန့်ထားခြင်းအတွက် ပါလီမန်ဆိုင်ရာ လွှတ်တော်နှစ်ရပ်တွဲဖက်အစည်းအဝေး၏ သဘာဝတူညီအတည် ပြုချက်ကို နောက်ပါလီမန်၏ ပဌမညီလာခံတွင် ရယူရမည်။

(၃) ပုဒ်မခွဲ(၁)နှင့်(၂)တို့အရ၊ ရွေးကောက်ပွဲမင်းကြီးချုပ်အဖြစ်လည်းကောင်း၊ ရွေးကောက်ပွဲမင်းကြီးများအဖြစ်လည်းကောင်း ခန့်ထားခြင်းတို့ကို ပါလီမန်တွင် ဆွေးနွေးခြင်းမပြုရ။

---

၁ (၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၇။)ဖြင့် ဖြည့်စွက်

(၄) ရွေးကောက်ပွဲမင်းကြီးချုပ်သည် ရွေးကောက်ပွဲကော်မရှင်၏ ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ရမည်။

(၅) အခြားရွေးကောက်ပွဲမင်းကြီးများသည် ရွေးကောက်ပွဲကော်မရှင်တွင် ရာထူးသက်အနုအရင့်လိုက်၍ ရာထူးစဉ်ရှေ့နောက် ဖြစ်ရမည်။

၁၁၃-ဂ။ ။(၁) ပုဒ်မ ၁၁၃-ခ အရ၊ ရွေးကောက်ပွဲမင်းကြီးချုပ်အဖြစ်လည်းကောင်း၊ ရွေးကောက်ပွဲမင်းကြီးများ အဖြစ်လည်းကောင်း၊ ခန့်ထားခြင်းခံရသော ပုဂ္ဂိုလ်တို့သည်၊ အောက်ပါအတိုင်း သစ္စာဆို၍ လက်မှတ်ထိုးရမည်။

"ကျွန်ုပ် ----------သည် ရွေးကောက်ပွဲမင်းကြီးချုပ် (သို့တည်းမဟုတ် ရွေးကောက်ပွဲ မင်းကြီး)၏တာဝန်အလုပ်ဝတ္တရားများကို ဖြောင့်မတ်မှန်ကန်စွာ မျက်နှာကြီးငယ် မရွယ်မထောက်၊ ဆန္ဒာ၊ ဒေါသာ၊ ဘယာဂတိများသို့ မလိုက်၊ ကိုယ်စွမ်းရှိသမျှ၊ ဉာဏ်စွမ်းရှိသမျှ ကျေကုန်အောင်ထမ်းရွက်ပါမည်။ထို့ပြင် ကျွန်ုပ်သည်၊ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေနှင့်တကွ တရားဥပဒေများကို ထိန်းသိမ်းစောင့်ရှောက် မည်ဟု လေးနက်တည်ကြည်စွာ ကျေညာ၍ ကတိသစ္စာပြုပါသည်။"

(၂) ရွေးကောက်ပွဲကော်မရှင်ဝင်အသီးသီးသည် နိုင်ငံတော်တရားဝန်ကြီးချုပ်၏ ရှေ့မှောက်၌သော်လည်းကောင်း၊ ဤကိစ္စအတွက်ဆောင်ရွက်နိုင်မည်ဖြစ်သော တရားလွှတ်တော်ချုပ် မှဝါအရင့်ဆုံးတရားဝန်ကြီး၏ ရှေ့မှောက်၌သော်လည်းကောင်း၊ အထက်ပါအတိုင်းသစ္စာဆို၍ လက်မှတ်ရေးထိုးရမည်။

(၃) ရွေးကောက်ပွဲကော်မရှင်ဝင်အသီးသီးသည် ရွေးကောက်ပွဲကော်မရှင်ဝင် အဖြစ်ဖြင့် တာဝန်အလုပ်ဝတ္တရားများကို စတင်မဆောင်ရွက်မီသစ္စာဆို၍ လက်မှတ်ရေးထိုးရမည်။

(၄) အထက်ပါအတိုင်း သစ္စာမဆိုလို၍ လက်မှတ်မထိုးလိုဟု ငြင်းဆန်သော သို့တည်းမဟုတ် ပျက်ကွက်သော ရွေးကောက်ပွဲကော်မရှင်ဝင်တစ်ဦးဦးသည်၊ ရာထူးကိုလက်မခံလို ငြင်းပယ်ရာရောက်သည်ဟူ၍ မှတ်ယူရမည်။

၁၁၃-ဃ။ ။ ရွေးကောက်ပွဲကော်မရှင်ဝင်အားလုံးသည်၊ ဤအခြေခံဥပဒေနှင့်တရားဥပဒေ များကိုသာ လိုက်နာ၍ မိမိတို့၏တာဝန်အလုပ်ဝတ္တရားများကို လွတ်လပ်စွာဆောင်ရွက်နိုင်ရမည်။

၁၁၃-င။ ။ တစ်ဦးတစ်ယောက်သောသူသည်၊ မိမိကိုယ်တိုင်သော်လည်းကောင်း၊ မိမိ၏ မိဘနှစ်ပါးသော်လည်းကောင်း၊ ပြည်ထောင်စုမြန်မာနိုင်ငံ၏အာဏာပိုင်နက်တွင် မွေးဖွားခဲ့၍ မိမိကိုယ်တိုင် ပြည်ထောင်စုမြန်မာနိုင်ငံသားဖြစ်သောသူ မဟုတ်လျှင်၊ ထိုသူမှာ ရွေးကောက်ပွဲကော်မရှင်ဝင်အဖြစ် ခန့်ထားထိုက်သော အရည်အချင်းပြည့်စုံခြင်း မရှိစေရ။

၁၁၃-စ။ ။(၁) ရွေးကောက်ပွဲကော်မရှင်ဝင်တစ်ဦးသည် မိမိကိုယ်တိုင်လက်မှတ်ရေးထိုးသော နုတ်ထွက်စာကို နိုင်ငံတော်သမ္မတထံသို့ တင်သွင်းခြင်းဖြင့် ရာထူးမှနုတ်ထွက်နိုင်သည်။

(၂) ထင်ရှားသည်ဟု ဆုံးဖြတ်ပြီးဖြစ်သည့်အကျင့်စာရိတ္တပျက်ပြားမှုကြောင့် ဖြစ်စေ၊ မစွမ်းဆောင်နိုင်မှုကြောင့်ဖြစ်စေ၊ ထိုအကြောင်းတစ်ခုခုကြောင့်မှတစ်ပါး၊ ရွေးကောက်ပွဲကော်

မရှင်ဝင်တစ်ဦးကို ရာထူးမှ မနုတ်ပယ်ရ။

(၃) ဤပုဒ်မရှိပြဋ္ဌာန်းချက်များနှင့်အညီ ပါလီမန်ဆိုင်ရာ လွှတ်တော်တစ်ရပ် ရပ်သည် စွပ်စွဲချက်ကို တင်ပြရမည်။

(၄) သက်ဆိုင်ရာလွှတ်တော်အမတ်စုစုပေါင်း၏ လေးပုံတစ်ပုံအောက်မလျော့သော အမတ်များက လက်မှတ်ရေးထိုး၍ အကြောင်းကြားသောအခါမှာမှတစ်ပါး၊ ပါလီမန်ဆိုင်ရာလွှတ်တော် တစ်ရပ်ရပ်တွင် ဤပုဒ်မအရတင်ပြရန်ဖြစ်သော စွပ်စွဲချက်အဆိုကို အရေးတယူပြု၍ မစဉ်းစားရ။

(၅) လွှတ်တော်အစည်းအဝေးတက်သော အမတ်များအနက်၊ အမတ်များရာက ထောက်ခံ၍၊ ဆုံးဖြတ်ပြဋ္ဌာန်းချက်ချသောအခါမှာမှတစ်ပါး ထိုကဲ့သို့သော စွပ်စွဲချက်အဆိုကို လက်မခံရ။

(၆) စွပ်စွဲချက်ကို အထူးခုံတော်အဖွဲ့က စုံစမ်းစစ်ဆေးရမည်။ ထိုခုံတော်အဖွဲ့တွင် နိုင်ငံတော်တရားဝန်ကြီးချုပ်၊ လူမျိုးစုလွှတ်တော်နာယကနှင့် ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌတို့ ပါဝင်ရမည်။

(၇) စွပ်စွဲချက်ကိုစုံစမ်းစစ်ဆေးရာတွင်၊ စွပ်စွဲချက်တင်ပြခြင်းခံရသော ရွေးကောက်ပွဲ ကော်မရှင်ဝင်၌၊ မိမိကိုယ်တိုင်သော်လည်းကောင်း၊ မိမိ၏ကိုယ်စားလှယ်ဖြင့်သော် လည်းကောင်း ချေပခွင့်ရှိရမည်။

(၈) အထူးခုံတော်အဖွဲ့သည် စုံစမ်းစစ်ဆေးပြီးနောက်၊ စွပ်စွဲချက်ကိုတင်ပြခဲ့ သောလွှတ်တော်သို့ အစီရင်ခံစာ တင်ပြရမည်။ စွပ်စွဲချက်မထင်ရှားဟု အထူးခုံတော်အဖွဲ့က အားလုံး သဘောတူယူဆခဲ့သော်၊ ထိုယူဆချက်သည် အပြီးအပြတ် အတည်ဖြစ်ရမည်။ သို့ရာတွင် သဘော ကွဲလွဲသောအခါများ၌မူကား၊ အထူးခုံတော်အဖွဲ့၏အစီရင်ခံစာကိုပါလီမန်ဆိုင်ရာ လွှတ်တော်နှစ်ရပ်လုံးက တွဲဖက်အစည်းအဝေးတွင် စဉ်းစားဆွေးနွေးရမည်။

စွပ်စွဲချက်ကို စဉ်းစားဆွေးနွေးပြီးနောက် စွပ်စွဲချက်ထင်ရှားသည်ဟူ၍လည်းကောင်း၊ ရွေးကောက်ပွဲကော်မရှင်ဝင်၏ အကျင့်စာရိတ္တပျက်ပြားခြင်းသည်၊ သို့တည်းမဟုတ် မစွမ်းမဆောင်နိုင်ခြင်း သည်၊ ရာထူး၌ဆက်လက်ထမ်းရွက်စေရန် မသင့်မထိုက်သော အကျင့်စာရိတ္တပျက်ပြားခြင်းမျိုး၊ သို့တည်း မဟုတ်မစွမ်းမဆောင်နိုင်ခြင်းမျိုးဖြစ်သည်ဟူ၍လည်းကောင်း၊ တွဲဖက်အစည်းအဝေးတက်ရောက်မဲပေးသော အမတ်များရာက အစည်းအဝေးတွင် ထောက်ခံ၍ ဆုံးဖြတ် ကျေညာခဲ့သော် နိုင်ငံတော်သမ္မတသည် မိမိ ကိုယ်တိုင်လက်မှတ်ရေးထိုး တံဆိပ်ခတ်နှိပ်သောအမိန့်စာဖြင့် သက်ဆိုင်ရာ ရွေးကောက်ပွဲကော်မရှင်ဝင်ကို ရာထူးမှချက်ခြင်း နုတ်ပယ်ရမည်။

၁၁၃-ဆ။ ။ ပြည်ထောင်စုနိုင်ငံဝန်ထမ်းအားလုံးနှင့် စပ်လျဉ်း၍၊ အသုံးချွေတာခြင်း၊ ရာထူးအရေအတွက်လျှော့ခြင်း တို့ကို ပြုသောအခါတွင်၊ ရွေးကောက်ပွဲကော်မရှင်ဝင် တစ်ဦးဦးသည် မိမိ၏ လစာကိုလျှော့စေရန်၊ မိမိအလိုအလျောက် သဘောမတူခဲ့သော် ရွေးကောက်ပွဲကော်မရှင်ဝင်တစ်ဦးကို ခန့်ထားပြီးမှ သူ၏လစာကိုသော်လည်းကောင်း၊ အခွင့်ယူခြင်းနှင့်၊ သို့တည်းမဟုတ် ပင်ရှင်ယူခြင်းနှင့် စပ်လျဉ်းသော

အခွင့်အရေးများကိုသော်လည်းကောင်း၊ သူ့အကျိုးနစ်နာအောင် ပြောင်းလဲခြင်းမပြုရ။

၁၁၃-ဇ။ ။ ဤအခြေခံဥပဒေအရပေးအပ်ထားသောအာဏာကို ပိုမိုထိရောက်စွာသုံးစွဲ နိုင်စေခြင်းအလို့ငှာ၊ လိုအပ်သည်ဟု သို့တည်းမဟုတ် အလိုရှိထိုက်သည်ဟု ထင်မြင်ယူဆနိုင်၍ ဤအခြေခံဥပဒေရှိပြဋ္ဌာန်းချက်များနှင့်လည်း မညီမညွတ်မဖြစ်သော ထပ်ဖြည့်အာဏာများကို၊ရွေးကောက်ပွဲကော်မရှင်အားပေးအပ်ရန်၊ ပါလီမန်သည် အက်ဥပဒေဖြင့်ပြဋ္ဌာန်းနိုင်သည်။

၁၁၃-ဈ။ ။ ရွေးကောက်ပွဲကော်မရှင်၊ ရွေးကောက်ပွဲမင်းကြီးချုပ်၊ အခြားရွေးကောက်ပွဲမင်းကြီးများနှင့်စပ်လျဉ်း၍၊ ဤအခြေခံဥပဒေရှိ အထက်ကဖော်ပြခဲ့သော ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ၊ အောက်ပါကိစ္စများကို တရားဥပဒေနှင့်အညီ သတ်မှတ်ရမည်။

(က) ရွေးကောက်ပွဲမင်းကြီးချုပ်နှင့် ရွေးကောက်ပွဲမင်းကြီးများ၏လစာငွေ၊ အငြိမ်းစားယူသောအသက်အရွယ်နှင့် ပင်ရှင်လစာငွေကိစ္စများ၊ ထို့ပြင်

(ခ) ရွေးကောက်ပွဲကော်မရှင်၏ လုပ်ငန်းဆောင်တာများကို ခွဲဝေပေးခြင်းအာဏာများနှင့်လုပ်ငန်းစဉ် ဆိုင်ရာကိစ္စများ။

၁၁၃-ည။ ။ သီးခြားအက်ဥပဒေ၊ သို့တည်းမဟုတ် နည်းဥပဒေများပြဋ္ဌာန်းခြင်းမပြုသေးမီ အချိန်အတွင်း ဆောင်ရွက်ရန်ရှိသော ရွေးကောက်ပွဲအရပ်ရပ်အတွက် မဲစာရင်းများပြုလုပ်ခြင်းနှင့် လည်းကောင်း၊ ပါလီမန်ရွေးကောက်ပွဲများ ကျင်းပခြင်းနှင့်လည်းကောင်း၊ ဤအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များကို၊ သို့တည်းမဟုတ် ပါလီမန်ဆိုင်ရာလွှတ်တော်နှစ်ရပ်လုပ်ငန်းစဉ်နည်းဥပဒေများကို သို့တည်းမဟုတ် ၁၉၄၉ ခုနှစ်၊ နိုင်ငံတော်သမတရွေးကောက်တင်မြှောက်မှုအက်ဥပဒေပါ ပြဋ္ဌာန်းချက် များကိုမထိခိုက်စေဘဲ အခြားတရားဥပဒေတစ်ခုခုအရ ရွေးကောက်ပွဲများ ကျင်းပခြင်းနှင့်လည်းကောင်း စပ်လျဉ်း၍ ကြီးကြပ်ရေး၊ ညွှန်ကြားရေးနှင့် အုပ်ချုပ်ရေးတို့ကို၊ ရွေးကောက်ပွဲကော်မရှင်က လက်ရှိတရား ဥပဒေများအရ ဆောင်ရွက်ရမည်။

# အခန်း (၇)

# ပြည်ထောင်စုအစိုးရ။

၁၁၄။ ။ ပြည်ထောင်စုနိုင်ငံအစိုးရအဖွဲ့ကို ပုဒ်မ၅၆အရခန့်ထားသောဝန်ကြီးချုပ်နှင့်ဝန်ကြီးများဖြင့် ဖွဲ့စည်းရမည်။

၁၁၅။ ။ အစိုးရအဖွဲ့သည်၊ ပြည်သူ့လွှတ်တော်အား၊ အဖွဲ့လိုက်စုပေါင်းတာဝန်ခံရမည်။

၁၁၆။ ။ × × × ×[၁]

၁၁၇။ ။ (၁) နိုင်ငံတော်သမတ၏လက်သို့မိမိ၏နုတ်ထွက်လွှာကိုပေးအပ်ခြင်းဖြင့်၊ ဝန်ကြီးချုပ်သည် အခါမရွေး၊ ရာထူးမှနုတ်ထွက်နိုင်သည်။

(၂) နိုင်ငံတော်သမတထံသို့ တင်သွင်းစေရန် မိမိ၏ နုတ်ထွက်လွှာကို ဝန်ကြီးချုပ်လက်သို့ ပေးအပ်ခြင်းဖြင့်၊ မည်သည့်အစိုးရအဖွဲ့ဝင်ဝန်ကြီးမဆို၊ ရာထူးမှနုတ်ထွက် နိုင်သည်။ တဆက်တည်းဖြစ်သော အောက်ပုဒ်မခွဲအရ နိုင်ငံတော်သမတက လက်ခံသောအခါ၊ ထိုသို့နုတ်ထွက်ခြင်း သည် အတည်ဖြစ်ရမည်။

(၃) ဝန်ကြီးချုပ်က အကြံပေးခဲ့လျှင်၊ နိုင်ငံတော် သမတသည် ဝန်ကြီးချုပ်၏ နုတ်ထွက်ခြင်း ကိုမှတပါး၊ အခြားမည်သည့်ဝန်ကြီး၏ နုတ်ထွက်ခြင်းကိုမဆို လက်ခံ ရမည်။

၁၁၈။ ။ဝန်ကြီးချုပ်သည်၊ မိမိ၏သဘောအရ လုံလောက်သောအကြောင်းများရှိသည်ဟု ထင်မြင်လျှင်၊ အစိုးရအဖွဲ့ဝင်ဝန်ကြီးတဦးအား မည်သည့်အချိန်အခါ၌ မဆို၊ ရာထူးမှနုတ်ထွက်စေရန် တောင်းဆိုနိုင်သည်။ အကယ်၍ သက်ဆိုင်ရာဝန်ကြီးသည်၊ ထိုတောင်းဆိုချက်ကို လိုက်နာဆောင်ရွက်ခြင်း မပြုဘဲ ပျက်ကွက်ခဲ့သော်၊ ထိုဝန်ကြီးအား၊ ဝန်ကြီးချုပ်ကရာထူးမှ ရပ်စဲစေရန် အကြံပေးခဲ့လျှင်၊ နိုင်ငံတော်သမတသည် ထိုဝန်ကြီးကို ရာထူးမှ ရပ်စဲစေရမည်။

၁၁၉။ ။ ဝန်ကြီးချုပ်သည်၊ ပြည်သူ့လွှတ်တော်တွင် အမတ်များရာ၏ ထောက်ခံမှုကိုမရသောအခါ၊ ရာထူးမှ နုတ်ထွက်ရမည်။ သို့ရာတွင် ဝန်ကြီးချုပ်၏ အကြံပေးချက် အတိုင်း၊ နိုင်ငံတော်သမတက ပုဒ်မ ၅၇ အရ၊ ပါလီမန်ကို ဖျက်သိမ်း၍၊ ထိုသို့ဖျက်သိမ်းပြီးနောက်၊ ပါလီမန်ကိုတဖန် ပြန်လည်ကျင်းပ စည်းဝေးသောအခါ၊ ထိုဝန်ကြီးချုပ်သည် ပြည်သူ့လွှတ်တော်တွင်အမတ်များရာ၏ ထောက်ခံမှုကို ပြန်လည်ရရှိလျှင်၊ မိမိ၏ ရးထူးမှ နုတ်ထွက်ရန်မလို။

၁၂၀။ ။ (၁) ဝန်ကြီးချုပ်သည်မည်သည့်အခါ၌မဆို ရာထူးမှနုတ်ထွက်လျှင် ဝန်ကြီးများသည်လည်း၊ မိမိတို့၏ရာထူးများမှ နုတ်ထွက်ကြသည်ဟု မှတ်ယူရမည်။ သို့ရာတွင်ရာထူးများ၌ ဆက်ဆံထမ်းရွက်မည့် ဝန်ကြီးချုပ်နှင့် ဝန်ကြီးများကိုခန့်ထားပြီးသည့်တိုင်အောင်၊ လက်ရှိဝန်ကြီးချုပ် နှင့်ဝန်ကြီးများသည်၊ မိမိတို့၏ တာဝန်ဝတ်တရားများကို ဆက်လက်ဆောင်ရွက်ကြရမည်။

(၂) ပါလီမန်ကိုဖျက်သိမ်းသည့်နေ့ရက်ကရာထူးလက်ရှိဖြစ်ကြသော အစိုးရအဖွဲ့ဝင်

---

၁ (၁၉၅၉ ခုနှစ်၊ အက်ဥပဒေအမှတ် ၄။) ဖြင့်ရုပ်သိမ်း

ဝန်ကြီးများသည်၊ ရာထူးဆက်ခံထမ်းရွက်မည့် ဝန်ကြီးများကိုခန့်ထားသည့် တိုင်အောင်၊ မိမိတို့၏ရာထူးများတွင် ဆက်လက်တည်ရှိ နေကြရမည်။

၁၂၁။ ။ (၁) ပြည်ထောင်စုအစိုးရ၏ အုပ်ချုပ်မှု ဆိုင်ရာ အရေးယူဆောင်ရွက်ချက်အားလုံးကို ပြည်ထောင်စု နိုင်ငံတော်သမတ၏အမည်ဖြင့် အရေးယူဆောင်ရွက်သည် ဟုဖေါ်ပြရမည်။

(၂) နိုင်ငံတော်သမတ၏အမည်ဖြင့် ထုတ်ပြန် သော အမိန့်များနှင့်တကွ စာချွန်တော်များကို၊ နိုင်ငံတော် သမတကပြဋ္ဌာန်းသည့် နည်းဥပဒေများတွင် ဖေါ်ပြထားသော နည်းလမ်းများနှင့်အညီ၊ ဟုတ်မှန်ကြောင်း ထင်ရှားစေရမည်။ ထို့ပြင်ထိုသို့ ဟုတ်မှန်ကြောင်း ထင်ရှားအောင်ပြုထားသည့် အမိန့်၊ သို့တည်းမဟုတ် စာချွန်တော်သည် နိုင်ငံတော် သမတ၏ အမိန့်၊ စာချွန်တော်များမဟုတ်သောကြောင့်မခိုင်လုံဟု ငြင်းဆိုပိုင်ခွင့် မရှိစေရ။

(၃) မိမိ၏သဘောအတိုင်းဆောင်ရွက်ရန် ဤအခြေခံဥပဒေကပြဋ္ဌာန်းသည့် မှုခင်းကိစ္စမှ လွဲ၍၊ပြည်ထောင်စုအစိုးရဆောင်ရွက်အပ်သောမှုခင်းကိစ္စအတွက်၄င်း၊ အဆိုပါမှုခင်း ကိစ္စများကိုဝန်ကြီးများအား ခွဲဝေပေးရန်၄င်း၊ နိုင်ငံတော်သမတသည် နည်းဥပဒေများကို ပြဋ္ဌာန်းရမည်။အထက်ကပြဋ္ဌာန်းချက်များ၏ ယေဘူယျသဘော ကိုမထိခိုက်စေဘဲ၊ တာဝန်ဝတ်တရားများကို နယ်မြေဒေသ အလိုက်ခွဲဝေနိုင်သည့်အပြင်၊ အစိုးရဌာန ဆိုင်ရာလုပ်ငန်း အလိုက်လည်း ခွဲဝေနိုင်သည်။

၁၂၂။ ။ဤအခြေခံဥပဒေ၌ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်လျှင်၊ ပြည်ထောင်စုနိုင်ငံ၏အုပ်ချုပ်မှုအခွင့် အာဏာသည်၊ အောက်ပါကိစ္စများသို့ သက်ရောက်ပြန့်နှံ့ သည်။

(က) ပါလီမန်ကဥပဒေပြုနိုင်သော ကိစ္စများ။

(ခ) ပြည်ထောင်စုနိုင်ငံအပတွင် ဖွဲ့စည်း၍ ပြည်ထောင်စုအစိုးရ၏ သဘောတူညီချက်ဖြင့် ပြည်ထောင်စု နိုင်ငံတွင်တပ်ချနေသော၊ သို့တည်းမဟုတ် ပြည်ထောင်စု နိုင်ငံကသုံးပြုရန် လွှဲအပ်ခြင်း ခံရသောလက်နက်ကိုင် စစ်တပ်များကို ထိုကိစ္စအတွက် ပြည်ထောင်ချင်းချင်းစာချုပ်၊ သို့တည်းမဟုတ် သဘောတူညီချက်တွင်ပါဝင်သော ပြဋ္ဌာန်းချက်များနှင့် လျော်ညီစွာအုပ်ချုပ်ရန်ကိစ္စများ။

၁၂၃။ ။ (၁) ပါလီမန်၏သဘောတူညီချက်ကိုမရဘဲ၊ စစ်မကျေညာရ။ ပြည်ထောင်စုနိုင်ငံသည်လည်း စစ်ထဲ၌မပါဝင်ရ။

(၂) သို့ရာတွင် အပြင်အပမှထိပါးတိုက်ခိုက်လာသောအခါ၌သော်၄င်း၊ ထိုသို့ထိပါး တိုက်ခိုက်အံ့ဆဲဆဲ အခါ၌သော်၄င်း၊ အစိုးရသည် ပြည်ထောင်စုနိုင်ငံကို ကာကွယ်စောင့်ရှောက်ရန်လိုအပ်သည်ဟုယူဆလျှင်၊ လိုအပ်သည်ဟုယူဆသည့်အတိုင်း၊ အရေးယူဆောင်ရွက်နိုင်သည်။ ထို့ပြင်ပါလီမန်ညီလာခံ ကျင်းပနေဆဲ မဟုတ်လျှင်၊ အလျင်အမြန်ဆုံးဆင့်ခေါ်၍ ညီလာခံကိုကျင်းပစေရမည်။

၁၂၄။ ။ပြည်တွင်းရေးရာ၊ပြည်ထောင်ချင်းချင်းရေးရာအားလုံးနှင့် စပ်လျဉ်းသော သဘောထားဝါဒများကို ဝန်ကြီးချုပ်သည်၊ နိုင်ငံတော်သမတအားအကြောင်းကြား နေရမည်။

၁၂၅။ ။ (၁) ပြည်ထောင်စုအစိုးရသည်၊ ဘဏ္ဍာတော်နှစ်တိုင်းတနှစ်အတွက် ပြည်ထောင်စုနိုင်ငံ၏ အရမှန်းခြေငွေစာရင်းနှင့် အသုံးမှန်းခြေငွေစာရင်းများကို ပြု၍၊ ထိုစာရင်းများကို ပြည်သူ့လွှတ်တော်သို့ စဉ်းစား ဆွေးနွေးစေရန် တင်ပြရမည်။

(၂) အသုံးမှန်းခြေငွေစာရင်း တင်ပြခြင်းကိစ္စ၊ ပြည်ထောင်စုနိုင်ငံ၏ အခွန်တော်ခွဲဝေ လျာထားခြင်းကိစ္စ၊ ထိုသို့တင်ပြခြင်း၊ လျာထားခြင်းတို့နှင့် သက်ဆိုင်သောကိစ္စ များနှင့် စပ်လျဉ်း၍၊ ပါလီမန်ဆိုင်ရာ လွှတ်တော်များတွင်၊ လိုက်နာရမည့်လုပ်ငန်းစဉ်ကို ဤအခြေခံဥပဒေက ပြဋ္ဌာန်း ထားပြီးမရှိလျှင်၊ တရားဥပဒေနှင့်အညီ ပြဋ္ဌာန်းရမည်။

## နိုင်ငံတော်ရှေ့နေချုပ်။

၁၂၆။ ။ (၁) နိုင်ငံတော်သမတသည်၊ ဝန်ကြီးချုပ်ကမည်တင်သွင်းသော တရားလွှတ်တော်ရှေ့နေတဦးကို၊ နိုင်ငံတော် ရှေ့နေချုပ်အဖြစ်ခန့်ထားရမည်။

(၂) နိုင်ငံတော်ရှေ့နေချုပ်၏ တာဝန်ဝတ်တရားမှာ၊ ဥပဒေနှင့် ဆိုင်သည့်ကိစ္စများတွင်၊ အစိုးရအား အကြံပေး ရန်ဖြစ်သည်။ ထို့ပြင်အခါကာလအားလျော်စွာ၊ နိုင်ငံတော် သမတကဆောင်ရွက်စေရန် လွှဲအပ်သော၊ ဥပဒေနှင့်ဆိုင် သည့် အခြားတာဝန် ဝတ်တရားများကိုလည်း ဆောင်ရွက်ရန် ဖြစ်သည်။

၁၂၇။ ။ (၁) နိုင်ငံတော်သမတထံသို့တင်သွင်းရန်ဖြစ်သောနုတ်ထွက်စာကို ဝန်ကြီးချုပ်အား ပေးအပ်ခြင်းဖြင့်၊ နိုင်ငံတော်ရှေ့နေချုပ်သည်၊ အခါမရွေးရာထူးမှ နုတ်ထွက်နိုင်သည်။

(၂) ဝန်ကြီးချုပ်သည်၊ လုံလောက်သော အကြောင်းအချက်များရှိသည်ဟု ထင်မြင်လျှင်၊ နိုင်ငံတော် ရှေ့နေချုပ်အား၊ ရာထူးမှနုတ်ထွက်ရန်၊ တောင်းဆို နိုင်သည်။

(၃) ထိုတောင်းဆိုချက်ကို နိုင်ငံတော်ရှေ့နေချုပ်ကမလိုက်နာခဲ့သော်၊ နိုင်ငံတော်သမတသည်၊ ဝန်ကြီးချုပ် က အကြံပေးလျှင်၊ နိုင်ငံတော်ရှေ့နေချုပ်ကို ရာထူးမှရပ်စဲ စေရမည်။

(၄) ဝန်ကြီးချုပ်နုတ်ထွက်သောအခါ၊ နိုင်ငံတော်ရှေ့နေချုပ်လည်း မိမိ၏ရာထူးမှ နုတ်ထွက်ရမည်။ သို့ရာတွင် ဝန်ကြီးချုပ်၏ရာထူးကို ဆက်ခံမည့်ပုဂ္ဂိုလ်အား၊ ခန့်ထားသည့်အချိန်အထိ မိမိ၏ တာဝန်ဝတ်တရားများကို ဆက်လက်ဆောင်ရွက် နိုင်သည်။

(၅) ဤအခြေခံဥပဒေရှိ အထက်ကဖေါ်ပြခဲ့ သော ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ၊ နိုင်ငံတော်ရှေ့နေချုပ် ရာထူးနှင့်တကွ၊ နိုင်ငံတော်ရှေ့နေချုပ်အားပေး ရမည့်လစာ စရိတ်တို့ကို တရားဥပဒေဖြင့်သတ်မှတ်ရမည်။

## နိုင်ငံတော်စာရင်းစစ်ချုပ်။

၁၂၈။ ။ပါလီမန်နှင့် ပြည်နယ်ကောင်စီများ၏ အခွင့်အာဏာဖြင့်၊ ထို့ပြင်ထိုအခွင့်အာဏာအရ၊ ပြည်ထောင်စုအစိုးရ ကိုယ်စားငွေထုတ်ပေးရေးကိစ္စ အားလုံးကို ကြီးကြပ်အုပ်ချုပ်စေရန်၄င်း၊ စီမံခန့်ခွဲရသော ငွေများ၏ စာရင်းအားလုံးကို စစ်ဆေးစေရန်၄င်း၊ နိုင်ငံတော် စာရင်းစစ်ချုပ် တဦးရှိရမည်။

၁၂၉။ ။ နိုင်ငံတော်သမတသည်၊ ပါလီမန်ဆိုင်ရာ လွှတ်တော်နှစ်ရပ်လုံး၏ သဘောတူညီချက် အရ၊

နိုင်ငံတော် စာရင်းစစ်ချုပ်ကိုခန့်ထားရမည်။ ရာထူးမှ နုတ်ပယ်သော အခါ၌လည်း လွှတ်တော်တရားဝန်ကြီးတဦးကို ရာထူးမှ နုတ်ပယ်သောနည်းအတိုင်း၊ ထိုတရားဝန်ကြီးကို နုတ်ပယ်ရာတွင် လိုအပ်သော အကြောင်းမျိုးဖြင့်သာလျှင်၊ နုတ်ပယ်ရမည်။ နိုင်ငံတော် စာရင်းစစ်ချုပ်သည်၊ ပါလီမန်ဆိုင်ရာ မည်သည့် လွှတ်တော်အမတ်မျှမဖြစ်စေရ။ အစိုးရနှင့် သက်ဆိုင် သည်ဖြစ်စေ မသက်ဆိုင်သည်ဖြစ်စေ၊ လစာစရိတ် ကြေးငွေရသော အခြားရာထူးဌာနန္တရတခုခုကို မခံယူရ။ နိုင်ငံတော်စာရင်းစစ်ချုပ်သည်။ မိမိ၏ရာထူးမှ ရပ်စဲသော အခါ၊ ပြည်ထောင်စုနိုင်ငံ၏၊ သို့တည်းမဟုတ်ပြည်နယ် များ၏ အစိုးရလက်အောက်တွင် နောက်ထပ်ရာထူးရ ယူနိုင်ခွင့် မရှိရ။

၁၃၀။ ။ပြည်ထောင်စုနိုင်ငံဝန်ထမ်းအားလုံးနှင့်စပ်လျဉ်း၍၊ အသုံးချွေတာခြင်း၊ရာထူးအရေ အတွက် လျှော့ခြင်းပြုသောအခါတွင်၊ နိုင်ငံတော်စာရင်းစစ်ချုပ် သည် မိမိ၏လစာနှင့် လျှော့စေရန် မိမိအလိုအလျောက် သဘောမတူခဲ့သော်၊ နိုင်ငံတော်စာရင်းစစ်ချုပ်ကို ခန့်ထားပြီးမှ၊ သူ၏လစာကိုသော်၎င်း၊ အခွင့်ယူခြင်းနှင့်၊ သို့တည်းမဟုတ် ပင်ရှင်ယူခြင်းနှင့် စပ်လျဉ်းသော အခွင့်အရေးများကိုသော် ၎င်း၊ သူ့အကျိုးနစ်နာအောင် ပြောင်းလဲခြင်းမပြုရ။

၁၃၁။ ။နိုင်ငံတော်စာရင်းစစ်ချုပ်သည်၊ ပြည်ထောင်စုနိုင်ငံနှင့် ပြည်နယ်များ၏ ငွေစာရင်းများဆိုင်ရာ အစီရင်ခံ စာများကို တရားဥပဒေက သတ်မှတ်ဖေါ်ပြထားသော အချိန်ကာလများတွင်၊ ပြည်သူ့လွှတ်တော်သို့ တင်ပြရမည်။

၁၃၂။ ။အထက်ကဖေါ်ပြခဲ့သော ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ၊ နိုင်ငံတော်စာရင်းစစ်ချုပ်ရာထူးဆိုင်ရာ စည်းကမ်းချက်များကို တရားဥပဒေဖြင့် သတ်မှတ်ရမည်။

# အခန်း (၆)

## ပြည်ထောင်စု၏ တရားစီရင်ရေး။

၁၃၃။ ။ပြည်ထောင်စုနိုင်ငံတဝန်းလုံး၌တရားစီရင်ရေး ကိစ္စကို ဤအခြေခံဥပဒေအရသော်၎င်း၊ တရားဥပဒေအရ သော်၎င်း၊ တည်ထောင်ထားသောတရားရုံးများတွင် ဤအခြေခံဥပဒေနှင့်အညီ၊သို့တည်းမဟုတ် တရားဥပဒေ နှင့်အညီ ခန့်ထားသောတရားသူကြီးများက စီမံအုပ်ချုပ် ရမည်။

၁၃၄။ ။ တရားရုံးများတွင်၊ မူလတရားရုံးများနှင့် အယူခံတရားခံများရုံးဟူ၍ နှစ်မျိုးပါဝင်ရမည်။

(က) မူလတရားရုံးများတွင် တရားလွှတ်တော်ပါဝင်ရမည်။ တရားဥပဒေဖြင့် မပြောင်းလွှဲသမျှ၊ ထိုတရား လွှတ်တော်တွင်၊ မူလစီရင်ပိုင်ခွင့်နှင့် အယူခံစီရင်ပိုင်ခွင့်ကိုရှိ၍၊ ဥပဒေကြောင်းနှင့်ဖြစ်စေ အမှုချင်းရာ နှင့်ဖြစ်စေသက်ဆိုင်သောကိစ္စနှင့် ပြဿနာတို့ကို စီရင်ဆုံးဖြတ်ရန်အာဏာလည်းရှိရမည်။

(ခ) တရားလွှတ်တော်၏ အကြီးအမှူးကို ``လွှတ်တော်တရားဝန်ကြီးချုပ်`` ဟုခေါ်ရမည်။

၁၃၅။ ။ (၁) အောက်ပါကိစ္စများအတွက်၊ တရားလွှတ်တော်၌သာလျှင် မူလစီရင်ပိုင်ခွင့် အာဏာများ ရှိရမည်။

(က) ပြည်ထောင်စုနိုင်ငံကချုပ်ဆိုသော ပြည်ထောင်ချင်းချင်းစာချုပ်များနှင့် စပ်လျဉ်း၍ ပေါ်ပေါက်လာသောကိစ္စများ။

(ခ) ပြည်ထောင်စုနိုင်ငံနှင့် ပြည်ထောင်စုအဖွဲ့ဝင် အငြင်းဖြစ်ပွါးသောကိစ္စများ သို့တည်းမဟုတ် ပြည်ထောင်စုအဖွဲ့ဝင်အချင်းချင်း အငြင်းဖြစ်ပွါးသောကိစ္စများ။

(ဂ) တရားဥပဒေဖြင့် သတ်မှတ်ထားသောအခြားကိစ္စများရှိလျှင်လည်း ထိုကိစ္စများ။

(၂) မည်သည့်လက်ခံတရားရုံး၌ဆို မပြီးမပြတ်ဖြစ်နေသေးသော အမှုတမှုတွင်၊ တရားဥပဒေ တခုခုသည် ဤအခြေခံဥပဒေရှိ ပြဋ္ဌာန်းချက်များအရခိုင်လုံသည် မခိုင်လုံသည် ဟူသောပြဿနာမျိုး၊ အရေးယူ လောက်အောင်ပေါ်ပေါက်နေသည်ဟု သို့တည်းမဟုတ် ပေါ်ပေါက်ရန် အကြောင်းရှိသည်ဟု တရားလွှတ်တော်က ယုံကြည်ကျေနပ်ခဲ့သော်၊ တရားလွှတ်တော်သည် ထိုအမှုကိုစစ်ဆေးရန် မိမိ၏လွှတ်တော်သို့ ပြောင်းရွှေ့ယူရမည်။

၁၃၆။ ။ (၁) နောက်ဆုံးအပြီးအပြတ် အယူခံဝင်ရာဖြစ်သော တရားရုံးကို ``တရားလွှတ်တော်ချုပ်`` ဟုခေါ်ရမည်။

(၂) တရားလွှတ်တော်ချုပ်၏ အကြီးအမှူးကို ``နိုင်ငံတော်တရားဝန်ကြီးချုပ်`` ဟု ခေါ်ရမည်။

(၃) ဤအခြေခံဥပဒေရှိအခြားပြဋ္ဌာန်းချက်များဖြင့် တရားလွှတ်တော်ချုပ်သို့ ပေးအပ်ထားသော အာဏာများကို မထိခိုက်စေဘဲ၊ ထို့ပြင်တရားဥပဒေကပြဋ္ဌာန်းထားသော ခြွင်းချက်များ စည်းမျဉ်း ဥပဒေများနှင့် မဆန့်ကျင်လျှင်၊ တရားလွှတ်တော်ချုပ်၌တရားလွှတ်တော်၏ စီရင်ချက်အားလုံးကို စစ်ဆေးဆုံးဖြတ်နိုင်သော အယူခံစီရင်ပိုင်ခွင့်အာဏာများရမည်။ ထို့ပြင်အခြားရားရုံးများ၏ စီရင်ချက်များကို တရားဥပဒေကသတ်မှတ်ထားသည့်

အတိုင်းစစ်ဆေးဆုံးဖြတ်နိုင်သော အယူခံစီရင်ပိုင်ခွင့်အာဏာများလည်းရှိရမည်။

၁၃၇။ ။ တရားဥပဒေတခုသည် အခြေခံဥပဒေရှိပြဋ္ဌာန်းချက်များအရ ခိုင်လုံသည် မခိုင်လုံသည်ဟူသော ပြဿနာပေါ်ပေါက်နေသည့်အမှုများကို၊တရားလွှတ်တော်ချုပ်၏ အယူခံစီရင်ပိုင်ခွင့်အာဏာဖြင့်၊ မစီရင် မဆုံးဖြတ်ရ ဟုမည်သည့် တရားဥပဒေမျိုးကိုမျှမပြုရ။

၁၃၈။ ။ တရားလွှတ်တော်ချုပ်၏စီရင်ချက်များသည် အမှုအားလုံးတွင် အပြီးအပြတ်ဖြစ်၍၊အယူခံဝင်ခွင့်မရှိစေရ။

၁၃၉။ ။ (၁) လွှတ်တော်ချုပ် တရားဝန်ကြီးအဖြစ်ဖြင့်၎င်း၊ လွှတ်တော်တရားဝန်ကြီးအဖြစ်ဖြင့်၎င်း၊ ဤအခြေခံဥပဒေ အရခန့်ထားခြင်းခံရသော ပုဂ္ဂိုလ်တို့သည်အောက်ပါအတိုင်းသစ္စာဆို၍ လက်မှတ်ထိုး ရမည်။

"ကျွန်ုပ် ----------------- သည်၊ တရားဝန်ကြီးချုပ်(သို့တည်းမဟုတ် တရားဝန်ကြီး) ၏ တာဝန်အလုပ်

ဝတ်တရားများကို ဖြောင့်မတ်မှန်ကန်စွာမျက်နှာကြီးငယ်မရွယ်မထောက်၊ ဆန္ဒာ၊ ဒေါသာ၊ ဘယာဂတိများသို့ မလိုက်၊ကိုယ်စွမ်းရှိသမျှ ဉာဏ်စွမ်းရှိသမျှ ကျေကုန်အောင်ထမ်းရွက်ပါမည်။ ထို့ပြင်ကျွန်ုပ်သည်၊ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေနှင့်တကွတရားဥပဒေများကို၊ထိန်းသိမ်းစောင့်ရှောက်မည်ဟု လေးနက်တည်ကြည်စွာ ကျေညာ၍ ကတိသစ္စာပြုပါသည်။"

(၂) နိုင်ငံတော်တရားဝန်ကြီးချုပ်သည်နိုင်ငံတော်သမတ၏ရှေ့မှောက်တွင် အထက်ပါအတိုင်း သစ္စာဆို၍လက်မှတ်ရေးထိုးရမည်။ တရားလွှတတော်ချုပ်နှင့်တရားလွှတ်တော်ဆိုင်ရာ တရားဝန်ကြီးအသီးသီးသည်လည်းနိုင်ငံတော်တရားဝနကြီးချုပ်၏ ရှေ့မှောက်၌သော်၎င်း ဤကိစ္စအတွက်ဆောင်ရွက်နိုင်မည်ဖြစ်သောတရားလွှတ်တော်ချုပ်မှ ဝါအရင့်ဆုံး တရားဝန်ကြီး၏ ရှေ့မှောက်၌သော်၎င်း အထက်ပါအတိုင်းသစ္စာဆို၍ လက်မှတ်ထိုး ရမည်။

(၃) တရားဝန်ကြီးတိုင်းသည် တရားဝန်ကြီးအဖြစ်ဖြင့် တာဝန်ဝတ်တရားများကို စတင် မဆောင်ရွက်မီ၊သစ္စာဆို၍ လက်မှတ်ထိုးရမည်။ ထိုသို့ပြုခြင်းကို တရားဝန်ကြီးအဖြစ်ဖြင့် ခန့်ထားပြီးသည့်နောက်တနေ့မှ၍၁၀ရက်အောက် နောက်မကျသော နေ့ရက်၌သော်၎င်း၊ နိုင်ငံတော်သမတက သတ်မှတ်သောတနေ့နေ့၌သော်၎င်းဆောင်ရွက်ရမည်။

(၄) အထက်ပါအတိုင်းသစ္စာမဆိုလို၍လက်မှတ် မထိုးလိုဟု ငြင်းဆန်သော သို့တည်းမဟုတ် ပျက်ကွက်သော တရားဝန်ကြီးသည် ရာထူးကိုလက်မခံလိုငြင်းပယ်ရာ ရောက်သည်ဟူ၍ မှတ်ယူရမည်။

၁၄၀။ ။ (၁) ပါလီမန်ဆိုင်ရာ လွှတ်တော်နှစ်ရပ်တွဲဖက်အစည်းအဝေး၏ သဘောတူချက်ဖြင့်၊ နိုင်ငံတော်တရားဝန်ကြီးချုပ်ကို နိုင်ငံတော်သမတသည်၊ မိမိကိုယ်တိုင်လက်မှတ်ရေးထိုး တံဆိပ်ခပ်နှိပ်သော အမိန့်စာဖြင့်၊ခန့်ထားရမည်။

(၂) ပါလီမန်ဆိုင်ရာ လွှတ်တော်နှစ်ရပ် တွဲဖက်အစည်းအဝေး၏ သဘောတူချက်ဖြင့်၊ တရားလွှတ်တော်ချုပ်နှင့်တရားလွှတ်တော်ဆိုင်ရာ တရားဝန်ကြီးအားလုံးကို နိုင်ငံတော် သမတသည် မိမိကိုယ်တိုင်လက်မှတ်ရေးထိုးတံဆိပ်ခပ်နှိပ်သော အမိန့်စာဖြင့် ခန့်ထားရမည်။

၁၄၁။ ။ တရားသူကြီးအားလုံးသည်၊ ဤအခြေခံဥပဒေနှင့် တရားဥပဒေများကိုသာလိုက်နာ၍၊ မိမိတို့၏ တရားစီရင်မှုအလုပ်ဝတ်တရားများကို လွတ်လပ်စွာဆောင်ရွက်နိုင်ရမည်။

၁၄၂။။ (၁) တဦးတယောက်သောသူသည်၊မိမိကိုယ်တိုင်သော်၎င်း မိမိ၏မိဘနှစ်ပါးသော်၎င်း ပြည်ထောင်စုမြန်မာနိုင်ငံ၏ အာဏာပိုင်နက်တွင် မွေးဖွါးခဲ့၍၊ မိမိကိုယ်တိုင် ပြည်ထောင်စုမြန်မာနိုင်ငံသားဖြစ်သောသူမဟုတ်လျှင်၊ သို့တည်းမဟုတ် အနည်းဆုံး ငါးနှစ်ထိုနိုင်ငံ၏ နိုင်ငံသားမဖြစ်ခဲ့ဘူးလျှင်၊ ထို့ပြင် [

(က) အနည်းဆုံးငါးနှစ် ရန်ကုန်မြို့ဟိုက်ကွတ်လွတ်တော်တရားဝန်ကြီးမဖြစ်ခဲ့ဘူးလျှင်၊ သို့တည်းမဟုတ်အနည်းဆုံးငါးနှစ်ဤအခြေခံဥပဒေအရ တည်ထောင် သော တရားလွတ်တော်၏ တရားဝန်ကြီးမဖြစ်ခဲ့ဘူးလျှင်၊ သို့တည်းမဟုတ်

(ခ) အနည်းဆုံးတဆယ့်ငါးနှစ်အမှုလိုက်လဲဆောင်ရွက်ခဲ့ဘူးသော တရားလွတ်တော် ရှေ့နေ မဟုတ်လျှင်ထိုသူသည်လွတ်တော်ချုပ် တရားဝန်ကြီးအဖြစ်ခန့်ထား ထိုက်သော အရည်အချင်းနှင့်ပြည့်စုံခြင်းမရှိစေရ။ခြွင်းချက်။။သို့ရာတွင် (က) တဦးတယောက်သော သူသည် တရားလွတ်တော်ရှေ့နေ မဟုတ်လျှင်၊သို့တည်း မဟုတ် တရားဌာနရာထူး တွင်ပဌမအကြိမ်ခန့်အပ်စဉ် အခါက တရားလွတ်တော်ရှေ့နေမဟုတ်ခဲ့လျှင်၊ ထို့ပြင်

(ဂ) အနည်းဆုံးတဆယ့်ငါးနှစ်အမှုလိုက်လဲဆောင်ရွက်ခဲ့ဘူးသော တရားလွတ်တော် ရှေ့နေ မဟုတ်လျှင် ထိုသူသည်၊နိုင်ငံတော် တရားဝန်ကြီးချုပ်အဖြစ် ခန့်ထားထိုက်သော အရည်အချင်းနှင့်ပြည့်စုံခြင်းမရှိစေရ။

(၂) တဦးတယောက်သောသူသည်၊ ပြည်ထောင်စုမြန်မာနိုင်ငံ၏ နိုင်ငံသားမဟုတ်လျှင်၊ ထို့ပြင် -

(က) အနည်းဆုံးဆယ်နှစ်အမှုလိုက်လဲ ဆောင်ရွက်ခဲ့သော တရားလွတ်တော်ရှေ့နေ မဟုတ်လျှင်၊ သို့တည်းမဟုတ်

(ခ) မြန်မာပြည်၌သော်မင်း ပြည်ထောင်စုနိုင်ငံ၌သော်၎င်း၊ အနည်းဆုံးငါးနှစ် ခရိုင်စက်ရှင်တရားသူကြီး၏ ရာထူးအောက်မနိမ့်သောသို့တည်းမဟုတ် ရန်ကုန်မြို့တော်တရားမတရားရုံးတရားသူကြီးချုပ်၏ ရာထူးအောက် မနိမ့်သောတရားဌာနရာထူးတွင်ဆောင်ရွက်ခဲ့သူမဟုတ်လျှင်၊ထိုသူသည် လွတ်တော်တရားဝန်ကြီးအဖြစ်ခန့်ထားလိုက်သာ အရည်အချင်းနှင့် ပြည့်စုံခြင်း မရှိစေရ။

ခြွင်းချက်။ ။ သို့ရာတွင်

(က) ထိုသူသည်တရားလွှတတော်ရှေ့နေမဟုတ်လျှင်၊ သို့တည်းမဟုတ်တရားဌာနရာထူးတွင် ပဌမအကြိမ်ခန့်အပ်စဉ်အခါကတရားလွတ်တော်ရှေ့နေမဟုတ်ခဲ့လျှင်၊ ထို့ပြင်

(ခ) အနည်းဆုံးတဆယ့်ငါးနှစ် အမှုလိုက်လဲဆောင်ရွက်ခဲ့ဘူးသော တရားလွတ်တော်ရှေ့နေ မဟုတ်လျှင် ထိုသူသည် လွတ်တော်တရားဝန်ကြီးချုပ်အဖြစ် ခန့်ထားထိုက်သော

အရည်အချင်းနှင့် ပြည့်စုံခြင်းမရှိစေရ။

(၃) တရားလွှတ်တော်ရှေ့နေတဦး၏ အမှုလိုက်လဲဆောင်ရွက်ခဲ့သော ကာလအပိုင်းအခြားကို ဤပုဒ်မ၏ ကိစ္စအလို့ငှါ တွက်စစ်ရာတွင်၊ ထိုသူတရားလွှတ်တော်ရှေ့နေဖြစ်ပြီးမှ၊ တရားဌာနရာထူးတွင်ထမ်းရွက်ခဲ့သောကာလအပိုင်းအခြားကိုပါ ထည့်သွင်းရေတွက် ရမည်။

၁၄၃။ ။ (၁) လွှတ်တော်ချုပ်တရားဝန်ကြီးတဦးသည် သို့တည်းမဟုတ်လွှတ်တော်တရားဝန်ကြီးတဦးသည် မိမိကိုယ်တိုင်လက်မှတ်ထိုးသော နုတ်ထွက်စာကို၊ နိုင်ငံတော်သမတထံသို့တင်သွင်းခြင်းဖြင့်၊ ရာထူးမှနုတ်ထွက်နိုင်သည်။

(၂) ထင်ရှားသည်ဟုဆုံးဖြတ်ပြီးဖြစ်သည့် အကျင့်စာရိတ ပျက်ပြားမှုကြောင့်ဖြစ်စေ မစွမ်းမဆောင်နိုင်မှုကြောင့်ဖြစ်စေ၊ ထိုအကြောင်းတခုခုကြောင့်မှတပါး၊ လွှတ်တော်ချုပ်တရားဝန်ကြီးကို သို့တည်းမဟုတ် လွှတ်တော်တရားဝန်ကြီးကို ရာထူးမှ မနုတ်ပယ်ရ။

(၃) ဤပုဒ်မရှိ ပြဋ္ဌာန်းခက်များနှင့်အညီ၊ ပါလီမန်ဆိုင်ရာလွှတ်တော်တရပ်ရပ်သည် စွပ်စွဲချက်ကို တင်ပြရမည်။

(၄) သက်ဆိုင်ရာ လွှတ်တော်အမတ်စုစုပေါင်း၏ လေးပုံတပုံအောက်မလျော့သော အမတ်များက တင်ပြပါသည်ဟု ဆုံးဖြတ်ပြဋ္ဌာန်းလက်မှတ် ထိုး၍၊ အကြောင်းကြားသော အခါမှာ မှတပါး၊ ပါလီမန် ဆိုင်ရာလွှတ်တော်တရပ်ရပ်တွင် ဤပုဒ်မအရတင်ပြရန် ဖြစ်သော စွပ်စွဲချက်အဆိုကို အရေးတယူပြု၍ မစဉ်းစားရ။

(၅) လွှတ်တော်အစည်းအဝေးတက်သောအမတ်များအနက်၊ အမတ်များရာကထောက်ခံ၍၊ ဆုံးဖြတ် ပြဋ္ဌာန်းချက်ချသောအခါမှတပါး၊ ထိုကဲ့သို့သော စွပ်စွဲချက်အဆိုကို လက်မခံရ။

(၆) စွပ်စွဲချက်သည် လွှတ်တော်ချုပ်တရားဝန်ကြီးတဦးနှင့်သက်ဆိုင်နေသော်၊ ထိုစွပ်စွဲချက်ကို အထူးခုံတော် အဖွဲ့က စုံစမ်းစစ်ဆေးရမည်။ ထိုခုံတော်အဖွဲ့တွင်နိုင်ငံတော်သမတ သော်၎င်း နိုင်ငံတော်သမတက မိမိ၏သဘောအတိုင်းခန့်ထားသော ပုဂ္ဂိုလ်တဦးသော် ၎င်း၊ ထို့ပြင်လူမျိုးစု လွှတ်တော်နာယကနှင့် ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌတို့လည်း ပါဝင်ရမည်။ စွပ်စွဲချက်သည် လွှတ်တော်တရား ဝန်ကြီးတဦးနှင့်သက်ဆိုင်နေသော်၊ ထိုစွပ်စွဲချက်ကို အထူးခုံတော်အဖွဲ့ကစုံစမ်းစစ်ဆေးရမည်။ ထိုခုံတော် အဖွဲ့တွင် နိုင်ငံတော်တရားဝန်ကြီးချုပ်၊ လူမျိုးစုလွှတ်တော်နာယကနှင့် ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌတို့ ပါဝင်ရမည်။

(၇) စွပ်စွဲချက်ကို စုံစမ်းစစ်ဆေးရာတွင်၊ စွပ်စွဲချက်တင်ပြခြင်းခံရသော တရားဝန်ကြီး၌၊ မိမိကိုယ်တိုင်သော်၎င်း မိမိ၏ကိုယ်စားလှယ်ဖြင့်သော်၎င်း၊ ချေပခွင့်ရှိရမည်။

(၈) အထူးခုံတော်အဖွဲ့သည် စုံစမ်းစစ်ဆေးပြီးနောက်၊ စွပ်စွဲချက်ကိုတင်ပြခဲ့သော လွှတ်တော်သို့ အစီရင်ခံစာတင်ပြရမည်။ စွပ်စွဲချက်မထင်ရှားဟု အထူးခုံတော်အဖွဲ့က အားလုံးသဘောတူယူဆခဲ့သော်၊ ထိုယူဆချက်သည်အပြီးအပြတ်အတည်ဖြစ်ရမည်။ သို့ရာတွင်သဘောကွဲလွဲသောအခါများ၌မူကား၊ အထူးတရားချုံတော်အဖွဲ့၏ အစီရင် ခံစာကို

ပါလီမန်ဆိုင်ရာလွှတ်တော်နှစ်ရပ်က တွဲဖက်အစည်းအဝေးတွင် စဉ်းစား ဆွေးနွေးရမည်။ စွပ်စွဲချက်ကိုစဉ်းစားဆွေးနွေးပြီးနောက်၊ စွပ်စွဲချက်ထင်ရှား သည်ဟူ ၍၄င်း၊ တရားဝန်ကြီး၏ အကျင့်စာရိတပျက်ပြားခြင်းသည်၊ သို့တည်းမဟုတ် မစွမ်းမဆောင်နိုင်ခြင်သည်၊ ရာထူး၌ဆက်လက်ထမ်းရွက်စေရန် မသင့်မထိုက်သော အကျင့်စာရိတပျက်ပြားခြင်းမျိုး၊ သို့တည်းမဟုတ်မစွမ်းမဆောင်နိုင်ခြင်းမျိုးဖြစ်သည်ဟူ၍၄င်း၊ တွဲဖက်အစည်း အဝေး တက်ရောက်မဲပေးသောအမတ်များရာက၊ အစည်း အဝေးတွင်ထောက်ခံ၍ ဆုံးဖြတ်ကျေညာခဲ့သော်၊နိုင်ငံတော်သမတသည်၊မိမိကိုယ်တိုင်လက်မှတ်ရေးထိုး တံဆိပ်ခပ် နှိပ်သော အမိန့်စာဖြင့်၊ သက်ဆိုင်ရာ တရား ဝန်ကြီးကိုရာထူးမှနုတ်ပယ်ရမည်။

၁၄၄။ ။ ပြည်ထောင်စုနိုင်ငံ ဝန်ထမ်းအားလုံးနှင့်စပ်လျဉ်း၍ အသုံးချွေတာခြင်း၊ ရာထူးအရေအတွက်လျော့ခြင်းတို့ကိုပြုသောအခါတွင်၊ လွှတ်တော်ချုပ်တရားဝန်ကြီးသည် သို့တည်းမဟုတ် လွှတ်တော်တရားဝန်ကြီးသည် မိမိ၏လစာကိုလျှော့စေရန်၊ မိမိအလိုအလျောက်သဘောမတူခဲ့သော၊ လွှတ်တော်ချုပ်တရားဝန်ကြီးကိုသို့တည်းမဟုတ် လွှတ်တော်တရားဝန်ကြီးကိုခန့်ထားပြီးမှ၊သူ၏လစာကိုသော်၄င်း အခွင့်ယူခြင်းနှင့် သို့တည်းမဟုတ်ပင်ရှင်ယူခြင်းနှင့်စပ်လျဉ်းသော အခွင့်အရေးများကိုသော်၄င်း၊ သူ့အကျိုးနစ်နာအောင် ပြောင်းလဲခြင်းမပြုရ။

၁၄၅။ ။နိုင်ငံတော်တရားဝန်ကြီးချုပ် ရာထူးသော်၄င်း၊ လွှတ်တော်တရားဝန်ကြီးချုပ်ရာထူးသော်၄င်းလစ်လပ်သောအခါ၊ သို့တည်းမဟုတ်ထိုနိုင်ငံတော်တရားဝန်ကြီးချုပ်သော်၄င်း ထိုလွှတ်တော်တရားဝန်ကြီးချုပ်သော်၄င်း အလုပ်ခွင်၌မရှိသောကြောင့်ဖြစ်စေ၊ အခြားအကြောင်းတခုခုကြောင့်ဖြစ်စေ၊ မိမိ၏ရာထူးဆိုင်ရာတာဝန်ဝတ်တရားများကို ဆောင်ရွက်နိုင်ခဲ့လျှင်၊ ထိုတာဝန်ဝတ်တရားများကို၊ လစ်လပ်သော ရာထူးတွင်ခန့်ထားခြင်းခံရသော ပုဂ္ဂိုလ်ကဝင်ရောက်ထမ်းရွက်သည့်တိုင်အောင်၊ သို့တည်းမဟုတ် နိုင်ငံတော်တရားဝန်ကြီးချုပ်ကသော်၄င်းလွှတ်တော်တရားဝန်ကြီးချုပ်ကသော်၄င်း မိမိ၏တာဝန်ဝတ်တရားများကို ပြန်လည်ဆောင်ရွက်သည့်တိုင်အောင်၊နိုင်ငံတော်သမတက၊ ထိုကိစ္စအတွက်ခန့်ထားသော တရားလွှတ်တော်ချုပ်ဆိုင်ရာ အခြားတရားဝန်ကြီးကသော်၄င်းထိုကဲ့သို့သော တရားလွှတ်တော်ဆိုင်ရာ အခြားတရားဝန်ကြီးကသော်၄င်း၊ အကြောင်းအားလျော်စွာဆောင်ရွက်ရမည်။

၁၄၆။ ။(၁) တခါတရံ တရားလွှတ်တော်ချုပ်တွင် တရားဝန်ကြီးရာထူးတခုသော်၄င်း အများသော်၄င်း၊လစ်လပ်၏။ တခါတရံ တရားဝန်ကြီးတဦးသော်၄င်းအများသော်၄င်း၊ နာဖျားမကျန်းဖြစ်သောကြောင့်ဖြစ်စေခွင့်ယူသောကြောင့်ဖြစ်စေ၊ အက်ဥပဒေဖြင့်၊ သို့တည်းမဟုတ် အခြားတနည်းနည်းဖြင့် ခွဲဝေလွှဲအပ်ထားသော အခြားတာဝန်ဝတ်တရားများကို ဆောင်ရွက်နေသောကြောင့် ဖြစ်စေ၊ အလုပ်ခွင်သို့ မတက်ရောက်နိုင်ဖြစ်။ တခါတရံ တရား ဝန်ကြီးတဦးသော်၄င်း၊ အများသော်၄င်း၊ အရည်အချင်း ပျက်ယွင်း၏ ထိုအခါတမျိုးမျိုးတွင်တရားခွင်၌ တရားစီရင် ရန်သော်၄င်း၊ တရားကိုဆက်လက်စီရင်ရန်သော်၄င်း၊ တရား စီရင်ရေးအထမမြောက် နိုင်အောင် တရားလွှတ်တော်ချုပ်၌၊ တရားဝန်ကြီးဦးရေအစေ့အငှမရှိဖြစ်၏ ထိုသို့ဖြစ်သောအခါ၊

နိုင်ငံတော်တရားဝန်ကြီးချုပ်သည်၊ သို့တည်းမဟုတ် ခေတ္တနိုင်ငံတော်တရား ဝန်ကြီးချုပ်သည်၊ သို့တည်းမဟုတ် ထိုပုဂ္ဂိုလ်နှစ်ဦးမရှိခိုက်ဖြစ်လျှင်၊ တရားဝန်ကြီးများ ထဲမှ ဝါအရင့်ဆုံးဖြစ်သော တရားဝန်ကြီးသည်၊ ထိုအပ်သော ကာလအပိုင်းအခြား အတွက် လွတ်တော်တရားဝန်ကြီးတဦး အားတရား လွတ်တော်ချုပ်တရားခွင်သို့ တက်ရောက်ပါဝင် စီရင်နိုင်စေရန်၊ အမည်ထုတ်ဖေါ်၍ စာဖြင့်ရေးသားဆင့်ဆိုနိုင်သည်။

(၂) ထိုသို့ဆင့်ဆိုခြင်းခံရသော လွတ်တော်တရားဝန်ကြီးသည်၊ မိမိ၏ရာထူးဆိုင်ရာ တာဝန်ဝတ်တရားများထက် တရားလွတ်တော်ချုပ်ဆိုင်ရာ တာဝန်ဝတ်တရားများကို အဦးအဖျားထားကာဆောင်ရွက်ရမည်ဖြစ်သောကြောင့်၊ တရားစီရင်ရန်လိုအပ်သော အချိန်၌၎င်း၊တရားစီရင်ရန် လိုအပ်သောကာလအပိုင်းအခြားအတွင်း၌၎င်း၊ တရား လွှတ်တော်ချုပ်၏ တရားခွင်သို့တက်ရောက်တရားစီရင်ရမည်။ ထိုသို့တက်ရောက်တရား စီရင်ရာတွင်ထိုတရားဝန်ကြီးသည်၊ လွတ်တော်ချုပ်တရားဝန်ကြီး၏အာဏာများနှင့် အခွင့်အရေးများ ကိုရရှိရမည့်အပြင်၊တာဝန်ဝတ်တရားများကိုလည်း၊ ဆောင်ရွက်ရမည်။

၁၄၇။ ။လွတ်တော်တရားဝန်ကြီးရာထူး တခုလစ်လပ်ခဲ့သော်၊ သို့တည်းမဟုတ် လွတ်တော်တရားဝန်ကြီးတဦးသည် အလုပ်ခွင့်၌မရှိသောကြောင့်သော်မင်း၊ အခြားအကြောင်းတခုခုကြောင့်သော်၎င်း၊ မိမိ၏တာဝန်ဝတ်တရားများကို မဆောင်ရွက်နိုင်ခဲ့သော်၊ နိုင်ငံတော်သမတသည် အရည်အချင်းနှင့် ပြည့်စုံသောပုဂ္ဂိုလ်တဦးအား၊ လွှတ်တော်တရားဝန်ကြီး အဖြစ်ဖြင့် ခေတ္တဆောင်ရွက်စေရန မိမိ၏သဘောအတိုင်းခန့်ထားနိုင်သျှည်၊ ဤအခြေခံဥပဒေရှိပုဒ်မ ၁၄၀၊ ပုဒ်မခွဲ (၂) အရ၊ ခန့်ထားခြင်းခံရသောပုဂ္ဂိုလ်သည်၊ အထက်ပါလစ်လပ်ခဲ့သော ရာထူးတွင်ဝင်ရောက်ထမ်းရွက်သည့် တိုင်အောင်၊ သို့တည်းမဟုတ်အမြဲတမ်းတရားဝန်ကြီးသည် မိမိ၏တာဝန်ဝတ်တရားများကိုပြန်လည် ဆောင်ရွက်သည့် တိုင်အောင်၊ နိုင်ငံတော်သမတက မိမိ၏ သဘောအတိုင်း ထိုပုဂ္ဂိုလ်အား၊ ရာထူးမှမနုတ်သိမ်းသေးသမျှ အထက်ပါ ခန့်ထားခြင်းခံရသောပုဂ္ဂိုလ်သည်၊ လွတ်တော်တရားဝန်ကြီးဖြစ်သည်ဟုမှတ်ယူရမည်။

၁၄၈။ ။တရားလွတ်တော်ချုပ်နှင့် တရားလွတ်တော်တို့သည်၊ မော်ကွန်းရုံးများဖြစ်စေရမည်။ ထိုလွတ်တော်များသည်၊ ပြည်ထောင်စုနိုင်ငံ၏မြို့တော်တွင် ရုံးစိုက်ကြရမည့်အပြင် နိုင်ငံတော်တရားဝန်ကြီးချုပ်နှင့် ညှိနှိုင်းတိုင်ပင်ပြီနောက်၊ နိုင်ငံတော်သမတကခွခါကာလ အားလျော်စွာသတ်မှတ်သောနေရာ၌လည်း၊ သို့တည်းမဟုတ်နေရာများ၌လည်းရုံးစိုက်ကြရမည်။

ခြွင်းချက်။ ။သို့ရာတွင် တရားလွတ်တော်တရားဝန်ကြီးတဦးသည်၊ သို့တည်းမဟုတ် တဦးထက်ပိုသောတရားလွတ်တော် တရားဝန်ကြီးများသည် ၊နိုင်ငံတော်သမတက နိုင်ငံတော်တရားဝန်ကြီးချုပ်နှင့်ညှိနှိုင်းတိုင်ပင်ပြီးနောက် အခါကာလ အားလျော်စွာသတ်မှတ်သော ရှမ်းပြည်နယ်ရှိ နေရာတနေရာ၌ရုံးထိုင်ရမည်။

၁၄၉။ ။တရားရုံးများနှင့် စပ်လျဥ်း၍၊ ဤအခြေခံဥပဒေရှိအထက်ကဖေါ်ပြခဲ့သော ပြဋ္ဌာန်းချက်များနှင့်မဆန့်ကျင်စေဘဲ၊ အောက်ပါကိစ္စများကို တရားဥပဒေနှင့်အညီ သတ်မှတ်ရမည်။

(က) တရားလွတ်တော်ချုပ်နှင့် တရားလွှတ်တော်တို့အတွက်၊ တရားဝန်ကြီးဦးရေ သတ်မှတ်ရေးကိစ္စ၊

တရားဝန်ကြီးများ၏ လစာငွေ၊ အငြိမ်းစားယူသော အသက် အရွယ်နှင့် ပင်ရှင်လစာငွေကိစ္စများ၊ ထို့ပြင်

(ခ) တရားရုံးများကို တည်ထောင်ဖွဲ့စည်းခြင်း၊တရားရုံးများနှင့် တရားသူကြီးများအား လုပ်ငန်းဆောင်တာ များကိုခွဲဝေပေးခြင်း၊ ထိုတရားရုံး၊ ထိုတရားသူကြီးများ၏ စီရင်ပိုင်ခွင့်များ၊ လုပ်ငန်းစဉ်ဆိုင်ရာ ကိစ္စများ။

၁၅၀။ ။ ဤအခြေခံဥပဒေအရ ခန့်ထားသောတရားသူကြီးသော်၄င်း၊ တည်ထောင်ထားသော တရားရုံးသော်၄င်း မဟုတ်စေကာမူ၊ ကန့်သတ်ထားသည့် တရားစီရင်ရေးဆိုင်ရာ အလုပ်ဝတ်တရားများကိုဖြစ်စေ၊ အာဏာများကိုဖြစ်စေ၊ သုံးစွဲဆောင်ရွက်စေရန် တရားဥပဒေဖြင့်ကျနစွာလွှဲအပ်ခြင်းခံရသောသူ၏၊ သို့တည်းမဟုတ်အဖွဲ့၏သုံးစွဲဆောင်ရွက်မှု၌ ခိုင်လုံခြင်းရှိသည်ကို၊ ဤအခြေခံဥပဒေရှိ မည်သည့်ပြဋ္ဌာန်းချက်ကမျှ ပျက်ပြယ်အောင်မပြုရ။

၁၅၁။ ။(၁) တရားလွှတ်တော်ချုပ်၏ ထင်မြင်ယူဆချက်ကို ယူရလောက်အောင် ပြည်သူများအတွက် အရေးကြီးသည်ဟူသော ဥပဒေကြောင်းဆိုင်ရာပြဿနာ တရပ်ပေါ်ပေါက်လာသည်ဟုသော်၄င်း ပေါ်ပေါက်ရန်အကြောင်းရှိသည်ဟုသော်၄င်း နိုင်ငံတော်သမတသည်မည်သည့် အခါ၌မဆို ထင်မြင်ယူဆခဲ့သော်၊ ထိုပြဿနာကိုစဉ်းစားစေရန် တရားလွှတ်တော်ချုပ်သို့ လွှဲအပ်နိုင်သည်။ တရားလွှတ်တော်ချုပ်ကလည်း၊ ထိုပြဿနာကိုနှင့် စပ်လျဉ်း၍ လျော်ကန်သင့်မြတ်သည့်အတိုင်း ကြားနာစစ်ဆေးပြီးနောက်၊ နိုင်ငံတော်သမတထံ အစီရင်ခံနိုင်ရမည်။

(၂) ထိုပြဿနာကို ကြားနာစစ်ဆေးစဉ်က၊ပါဝင်ဆောင်ရွက်ကြသော တရားဝန်ကြီးများရာ၏ သဘောကြိုက်ညီချက်ဖြင့် တရားခွင်တွင် အထင်အရှား ချမှတ်သော ထင်မြင်ယူဆချက်နှင့်အညီ ဤပုဒ်မအရ၊ အစီရင်ခံသည်မှတပါး၊ မည်သို့မျှ အစီရင်မခံရ။ သို့ရာတွင် တရားဝန်ကြီးတဦးဦး၏ သဘောကွဲလွဲသောထင်မြင်ယူဆ ချက်ကိုမူကား၊ဤပုဒ်မခွဲရှိစကားကြောင့်၊ ထုတ်ဖော်ရေးသားခွင့်မပြုဟုမမှတ်ယူရ။

၁၅၂။ ။ တရားလွှတ်တော်ချုပ်က ဆုံးဖြတ်ကျေညာလိုက်သောတရားဥပဒေသည်၊ ပြည်ထောင်စုနိုင်ငံ၏ အာဏာပိုင်နက်အတွင်းရှိ တရားရုံးအားလုံးအပေါ်တွင်သက်ဆိုင်နိုင်သမျှ သက်ဆိုင်သည်အထိ၊ အာဏာတည်သည်ဟူ၍၄င်း၊ ထိုတရားရုံးများကလိုက်နာရမည်ဟူ၍ ၄င်း၊အသိအမှတ်ပြုရမည်။

၁၅၃။ ။ ဤအခြေခံဥပဒေအရ ပေးအပ်ထားသော တရားစီရင်ပိုင်ခွင့်အာဏာကို တရားလွှတ်တော်ချုပ်က ပိုမို ထိရောက်စွာ သုံးစွဲနိုင်စေခြင်းအလို့ငှါ၊ လိုအပ်သည်ဟု သို့တည်းမဟုတ် အလိုရှိထိုက်သည်ဟု ထင်မြင်ယူနိုင်၍၊ ဤအခြေခံဥပဒေရှိ ပြဋ္ဌာန်းချက်များနှင့်လည်းမညီမညွတ် မဖြစ်သော ထပ်ဖြည့်အာဏာများကို၊တရားလွှတ်တော်ချုပ် အားပေးအပ်ရန်၊ ပါလီမန်သည်၊အက်ဥပဒေဖြင့် ပြဋ္ဌာန်းနိုင်သည်။

**အခန်း (၉)**

## အပိုင်း ၁။ ရှမ်းပြည်နယ်။

## ရှမ်းပြည်နယ်ကောင်စီ။

၁၅၄။ ။ (၁) ပါလီမန်၏ရှမ်းပြည်နယ်ဆိုင်ရာကိုယ်စားလှယ်အမတ်အားလုံး ပါဝင်သည့် ရှမ်းပြည်နယ်ကောင်စီကို ဖွဲ့စည်းရမည်။

(၂) × × × ×[၁]

(၃) လွှတ်တော်ချုပ်တရားဝန်ကြီးသုံးဦး အောက်မနည်းပါဝင်သော ခုံတော်သည်၊ လွှဲအပ်သောပြဿနာကိုစဉ်းစားရမည်ဟုသင့်မြတ်လျော်ကန်သည်ဟု ထင်မြင်သည့် အတိုင်းကြားနာစစ်ဆေးစဉ်းစားပြီးသောအခါ၊ထိုပြဿနာနှင့် စပ်လျဉ်း၍၊ လွှဲအပ်ပြီးသည့်နောက်၊ ရက်ပေါင်း ၃၀ အောက်နောက်မကျစေဘဲ မိမိတို့၏ ဆုံးဖြတ်ချက်ကို တရားဝန်ကြီးများရာ၏ ဆုံးဖြတ်ချက်သည်၊ တရားလွှတ်တော်ချုပ်၏ ဆုံးဖြတ်ချက် ဖြစ်ရမည်။

(၄) ဤပုဒ်မအရ၊ တရားလွှတ်တော်ချုပ်သို့ လွှဲအပ်သော ဥပဒေကြမ်းရှိပြဋ္ဌာန်းချက်သည်၊ ဤအခြေခံ ဥပဒေနှင့် ဆန့်ကျင်သည်ဟု တရားလွှတ်တော်ချုပ်က ဆုံးဖြတ် သော ကိစ္စတိုင်း၌၊ နိုင်ငံတော်သမတသည် ထိုဥပဒေကြမ်း ကိုပြန်လည်စဉ်းစားဆွေးနွေးစေရန် ပြည်နယ်ကောင်စီသို့ ပြန်ပို့ရမည်။ ပြည်နယ်ကောင်စီက လိုအပ်သော ပြင်ဆင် ချက်များကိုမပြုလျှင်၊ နိုင်ငံတော်သမတသည်၊ ထိုဥပဒေ ကြမ်းကို လက်မှတ်မထိုးဟု ငြင်းဆိုရမည်။

(၅) ထိုသို့ငြင်းဆိုဘွယ်မရှိလျှင် နိုင်ငံတော် သမတသည်၊ တရားလွှတ်တော်ချုပ်က အဆုံးအဖြတ်ကို ထုတ်ဖေါ် ကျေညာပြီးသည့်နောက်၊ လျင်မြန်နိုင်သမျှ လျင်မြန်စွာ ထိုဥပဒေကြမ်းကို လက်မှတ်ထိုး၍၊ အက်ဥပဒေဖြစ်လာ ကြောင်း ထုတ်ပြန်ကျေညာ ရမည်။

(၆) တဆက်တည်းဖြစ်သော အထက်ပုဒ်မအရ တင်သွင်းသော ဥပဒေကြမ်းကို တရားလွှတ်တော်ချုပ်သို့ မလွှဲအပ်ဘဲနှင့်ဖြစ်စေ၊ လွှဲအပ်ပြီးမှဖြစ်စေ၊ နိုင်ငံတော်သမတ ကလက်မှတ်ထိုးပြီးခဲ့လျှင်၊ ပြည်နယ်ကောင်စီက ပြုပိုင်ခွင့် မရှိဟူသော အကြောင်းပြချက်ဖြင့် ထိုဥပဒေကြမ်းရှိ ပြဋ္ဌာန်းချက်သည် မခိုင်လုံဟု ငြင်းဆိုခြင်းမပြုရ။

၁၅၈။ ။ နိုင်ငံတော်သမတလက်မှတ်ထိုးသော ပြည်နယ်ကောင်စီအက်ဥပဒေစာမူတိုင်းကို တရားလွှတ်တော်ချုပ်၏ အတွင်းဝန်ရုံး၌မော်ကွန်းတင်ရမည်။ မိတ္တူတိုင်းကိုလည်း၊ ရှမ်းပြည်နယ်ဝန်ကြီးရုံး၌ မော်ကွန်းတင် ရမည်။

၁၅၉။ ။ ရှမ်းပြည်နယ်ဥက္ကဋ္ဌသည်၊အခါကာလအားလျော်စွာပြည်နယ်ကောင်စီကို ဆင့်ခေါ်နိုင်သည်၊ ရုပ်သိမ်းနိုင်သည်။ သို့ရာတွင်ပြည်နယ်ကောင်စီ၏ ညီလာခံကိုနှစ်စဉ် တနှစ်လျှင် အနည်းဆုံးတကြိမ် ကျင်းပရမည်။ ထိုသို့ ကျင်းပသောအခါ၊ ပြည်နယ်ကောင်စီညီလာခံ၏ ပဌမ အစည်းအဝေးတို့၏ စပ်ကြားတွင်

၁ (၁၉၅၉ ခုနှစ်၊ အက်ဥပဒေအမှတ် ၁၀။) ဖြင့်ရုပ်သိမ်း

၁၂ လခြားမနေစေရ။

## ရှမ်းပြည်နယ်အစိုးရ။

၁၆၀။ ။ဝန်ကြီးချုပ်သည် ရှမ်းပြည်နယ်ကောင်စီ နှင့်ညှိနှိုင်းတိုင်ပင်၍၊ ပါလီမန်၏ရှမ်းပြည်နယ်ဆိုင်ရာ ကိုယ်စားလှယ်အမတ်များအနက်၊ အမတ်တဦးဦး၏ အမည်ကို တင်သွင်းသောအခါ၊ ထိုသို့အမည် တင်သွင်းခြင်း ခံရသော အမတ်ကို နိုင်ငံတော်သမတသည် အောက်တွင် ``ရှမ်းပြည်နယ်ဝန်ကြီး`` ဟု ခေါ်တွင်ရမည်ဖြစ်သော ပြည်ထောင်စု အစိုးရအဖွဲ့ဝင်ဝန်ကြီးအဖြစ်ဖြင့်ခန့်ထားရမည်။ ထိုသို့ခန့်ထားခြင်း ခံရသောဝန်ကြီးသည် ဤအခြေခံ ဥပဒေ၏ကိစ္စများ အတွက် ရှမ်းပြည်နယ်ဥက္ကဋ္ဌလည်း ဖြစ်ရမည်။ ဆောင်ရွက်ရမည်။ ဆိုလိုရင်းမှာ၊ ရှမ်းပြည်နယ်သက္ကဋ္ဌသည်တိုက်ရိုက်ဖြစ်စေ၊ လက်အောက်ခံအရာရှိများမှ တဆင့်ဖြစ်စေ၊ ပြည်နယ်၏အုပ်ချုပ်မှုအခွင့်အာဏာကို သုံးစွဲနိုင်ရမည်။

(၂) တဆက်တည်းဖြစ်သော အောက်ပုဒ်မရှိ ပြဋ္ဌာန်းချက်များ၏ ယေဘုယျသဘောကို မထိခိုက်စေဘဲ၊ ဆိုခဲ့သောအုပ်ချုပ်မှုအခွင့်အာဏာသည်ပြည်နယ်အုပ်ချုပ်ရေးဆိုင်ရာ ရာထမ်းမှုထမ်းများ ခန့်ထားခြင်း၊ နေရာချခြင်း၊ရွှေ့ပြောင်းပေးခြင်း၊ ထိုရာထမ်းမှုထမ်းများ စည်းကမ်းသေဝပ်ခြင်း ကိစ္စအားလုံးသို့သက်ရောက်ပြန့်နှံ့ရမည်။

၁၆၂။ ။(၁) ဤအခြေခံဥပဒေရှိ ပြဋ္ဌာန်းချကများနှင့်မဆန့်ကျင်စေဘဲ၊ ပြည်နယ်၏အုပ်ချုပ်မှု အခွင့်အာဏာသည် ပြည်နယ်ကောင်စီကတရားဥပဒေပြုပိုင်သော ကိစ္စများသို့သက်ရောက် ပြန့်နှံ့သည်။ အုပ်ချုပ်မှုအခွင့် အာဏာကိုသုံးစွဲရာတွင်၊ ပြည်နယ်ဥက္ကဋ္ဌသည် ကောင်စီ၏ ဆုံးဖြတ်ချက်ကိုလိုက်နာရမည်။

(၂) ပြည်နယ်ဆိုင်ရာ အခြားကိစ္စအားလုံးတွင်၊ ပြည်နယ်ဥက္ကဋ္ဌသည် ပြည်နယ်ကောင်စီနှင့် ညှိနှိုင်းတိုင်ပင် ရမည်။

(၃) ရှမ်းပြည်နယ်ကောင်စီ၏ ဆုံးဖြတ်ချက် များနှင့် ထင်မြင်ချက်များကို ပြည်နယ်ဥက္ကဋ္ဌထံသို့ တင်ပြရာတွင် လွယ်ကူစိမ့်သောငှါ၊ ပြည်နယ်ကောင်စီသည် ရွေးကောက်ပွဲ ပြီးသည့် နောက်၊ ပဌမအကြိမ်ကျင်းပသောအစည်းအဝေးတွင်၊ ကောင်စီအမတ်များထဲမှသော်၎င်း ကောင်စီအမတ် မဟုတ်သူများထဲမှသော်၎င်း ရွေးချယ်၍ ပြည်နယ်အစိုးရ အဖွဲ့ကို ဖွဲ့စည်းရမည်။ ထိုအစိုးရအဖွဲ့ သည် ပြည်နယ်ဥက္ကဋ္ဌကို အလုပ်ဝတ်တရားများ ဆောင်ရွက်ရာတွင် ကူညီရန်၊ အကြံပေးရန်၊ အကြံပေးရန် ဖြစ်သည်။

၁၆၃။ ။ပြည်နယ်ဥက္ကဋ္ဌသည် ပြည်နယ်ကောင်စီ ၏သာမန်ညီလာခံကျင်းပသောအခါများ၌၊ မိမိဆောင်ရွက် ခဲ့သောလုပ်ငန်းဆောင်တာအကြောင်းကို ပြောကြားရမည်။ သို့တည်းမဟုတ်ပြောကြား စေရမည်။ ရှမ်းပြည်နယ်ကိစ္စ အားလုံးနှင့် သက်ဆိုင်သော အစီရင်ခံစာကို တင်သွင်း ရမည်။ သို့တည်းမဟုတ်တင်သွင်းစေရမည်။ ပြည်နယ်၏ အကျိုး စီးပွားတိုးတက်ရာတိုးတက်ကြောင်းဖြစ်သည်ဟု ထင်မြင် ယူဆသောစီမံချက်များကို စဉ်းစားဆွေးနွေးစေရန် ပြည်နယ် ကောင်စီအား ထောက်ခံ အကြံပေးရမည်။

၁၆၄။ ။(၁) ပြည်နယ်ဥက္ကဋ္ဌသည် ဘဏ္ဍာတော် နှစ်တိုင်းတနှစ်အတွက်၊ ပြည်နယ်ဆိုင်ရာအရ မှန်းခြေ ငွေစာရင်းနှင့်အသုံးမှန်းခြေ ငွေစာရင်းများကိုပြုရမည်။ သို့တည်းမဟုတ်ပြုစေ ရမည်။ ထိုငွေစာရင်းများကို စဉ်းစား ဆွေးနွေးစေရန် ပြည်နယ်ကောင်စီသို့ တင်သွင်းရမည်။ သို့တည်းမဟုတ် တင်သွင်းစေရမည်။

(၂) ပြည်ထောင်စုအစိုးရ၏ အထောက်အပံ့ငွေ နှင့်စပ်လျဉ်း၍၊ ပြည်ထောင်စုအစိုးရက သတ်မှတ်သော စည်းကမ်းချက်များနှင့် မဆန့်ကျင်စေဘဲ၊ ပြည်နယ်ကောင်စီ သည် ပြည်နယ်၏ ဘတ်ဂျက်ကိုလက်ခံ အတည်ပြုနိုင်ရန် အာဏာရှိရမည်။ ထိုစည်းကမ်းချက် များအတိုင်း၊ ပြည်နယ် ကောင်စီက ကျနစွာလိုက်နာကြောင်း နိုင်ငံတော်သမတ အားၤကျေနပ်နိုင်စေရန် ပြည်နယ်၏ဘတ်ဂျက်ကို ပြည်ထောင်စုအစိုးရ၏ ဘတ်ဂျက် တွင်၊ ထည့်သွင်းဖေါ်ပြ ရမည်။

၁၆၅။ ။ဤအခြေခံဥပဒေရှိ ပြဋ္ဌာန်းချက်များနှင့်မဆန့်ကျင်စေဘဲ၊ ပြည်နယ်ဥက္ကဋ္ဌ၊ ပြည်နယ်ကောင်း၊ ပြည်နယ် အစိုးရ အဖွဲ့တို့၏ အာဏာနှင့်တာဝန်ဝတ်တရား များဆိုင်ရာကိစ္စများ၊ ထို့ပြင် ထိုဥက္ကဋ္ဌ၊ ထိုကောင်စီ၊ ထိုအစိုးရ အဖွဲ့တို့အချင်းချင်း ဆက်ဆံရေးကိစ္စများ၊ ထို့ပြင် ထိုဥက္ကဋ္ဌ၊ ထိုကောင်စီ၊ ထိုအစိုးရအဖွဲ့တို့နှင့် ပြည်ထောင်စုအစိုးရ၏ ဆက်ဆံရေးကိစ္စများပါဝင်သော ပြည်နယ်၏ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေဆိုင်ရာကိစ္စအားလုံးကိုတရားဥပဒေဖြင့် ပြဋ္ဌာန်းသတ်မှတ် ရမည်။

## အပိုင်း ၂။ ကချင်ပြည်နယ်။

## ကချင်ပြည်နယ်ကောင်စီ။

၁၆၆။ ။(၁) ပါလီမန်၏ ကချင်ပြည်နယ်ဆိုင်ရာ ကိုယ်စားလှယ်အမတ်အားလုံးပါဝင်သည့် ကချင် ပြည်နယ် ကောင်စီကို ဖွဲ့စည်းရမည်။

(၂) လူမျိုးစုလွှတ်တော်၌ ကချင်ပြည်နယ် အတွက် သတ်မှတ်ထားသော အမတ်နေရာ ၁၂ နေရာ အနက်၊ ၆ နေရာကို ကချင်ပြည်နယ်မှကချင်အမျိုးသား များ၏ ကိုယ်စားလှယ်အမတ်များဖြင့် ဖြည့်သွင်းရမည်။ အခြား ၆ နေရာကို ကချင်ပြည်နယ်မှ ကချင်အမျိုးသား မဟုတ်သူများ၏ ကိုယ်စားလှယ်အမတ်များဖြင့် ဖြည့်သွင်း ရမည်။

(၃) ပါလီမန်အမတ်အဖြစ်မှရပ်စဲသော ပြည်နယ် ကောင်စီအမတ်သည်၊ ကောင်စီ၌လည်း ကောင်စီအမတ် အဖြစ်မှရပ်စဲသည်ဟု မှတ်ယူရမည်။ သို့ရာတွင် ထိုကောင်စီ အမတ်သည်၊ မိမိအားဆက်ခံ မည့်သူကို ရွေးကောက်တင် မြှောက်ပြီးသည့်တိုင်အောင် မိမိ၏တာဝန်ဝတ်တရားများကို ဆက်လက်ဆောင်ရွက် နိုင်သည်။

၁၆၇။ ။(၁) ဤအခြေခံဥပဒေ အာဏာ တည်အံ့ဆဲဆဲကာလက၊ ကချင်အမျိုးသားများသည်၊ သို့တည်းမဟုတ် ကချင်အမျိုးသား မဟုတ်သော အမျိုးသားများသည် လူတန်းစားအဖြစ်ဖြင့်သော်၎င်း၊ လူမျိုးစုအဖြစ် ဖြင့်သော်၎င်း၊ ခံစားခဲ့ကြသောအခွင့်အရေးများကို ထိခိုက်နစ်နာစေသည့် ဥပဒေကြမ်းသည်၊ အစည်းအဝေးတက် ရောက်မဲပေးသော ကချင်အမျိုးသားများ၏ ကိုယ်စားလှယ် အမတ်များရာကသော်၎င်း၊ ကချင်အမျိုးသား မဟုတ်သူ များ၏

ကိုယ်စားလှယ်အမတ်များရာကသော်၎င်း၊ သက်ဆိုင်ရာကထောက်ခံ၍ မဲပေးခြင်းမပြုလျှင်၊ ပြည်နယ်ကောင်စီ၏ အတည်ပြုချက်ကိုရ သည်ဟု မမှတ်ယူရ။

(၂) ပြည်နယ်ကောင်စီတွင်၊ ဥပဒေကြမ်းတခု သည်၊ တဆက်တည်းဖြစ်သော အထက်ပုဒ်မခွဲတွင် ဖော်ပြ သည့်သဘောမျိုး သက်ရောက်သော ဥပဒေကြမ်းဟုတ် မဟုတ် အငြင်းဖြစ်ပွါးခဲ့သော်၊ သဘာပတိသည်၊ ထိုအငြင်း ဖြစ်ပွါးမှုနှင့်စပ်လျဉ်း၍ ပြည်နယ်ကောင်စီဝင် ကချင် အမျိုးသားများ၏ ကိုယ်စားလှယ်အမတ်များနှင့် ကချင် အမျိုးသားမဟုတ်သူများ၏ ကိုယ်စားလှယ်အမတ် များအား၊ တသီးတခြားစီ မဲဆန္ဒပေးစေရမည်။ ကချင်အမျိုးသားများ၏ ကိုယ်စားလှယ်အမတ်များရာက သော်၎င်း၊ ကချင်အမျိုးသား မဟုတ်သူများ၏ ကိုယ်စားလှယ်အမတ်များရာက သော်၎င်း၊ သက်ဆိုင်ရာရာကထောက်ခံ၍မဲပေးခဲ့သော်၊ ထိုဥပဒေကြမ်းသည် ဖေါ်ပြခဲ့သော သဘောမျိုး သက်ရောက်သည့်ဥပဒေကြမ်းဖြစ်သည်ဟု မှတ်ယူရမည်။

၁၆၈။ ။ပြည်နယ်ကောင်စီသည်၊ မိမိကိုယ်တိုင်ဥပဒေပြုပိုင်ခွင့်မရှိသော ကိစ္စနှင့် သက်ဆိုင်သည့် ဥပဒေများကိုပြုပေးရန်၊ ပါလီမန်သို့ထောက်ခံချက် တင်သွင်းနိုင်သည်။

၁၆၉။ ။ပြည်နယ်ကောင်စီသည်၊ ဥပဒေကြမ်းတခုကိုအတည်ပြုပြီးသောအခါ၊ ထိုဥပဒေကြမ်းကို လက်မှတ်ထိုး၍ ထုတ်ပြန်ကျေညာပေးရန် နိုင်ငံတော်သမတထံသို့တင်သွင်း ရမည်။ နိုင်ငံတော်သမတသည် အဆိုပါ ဥပဒေကြမ်းနှင့် စပ်လျဉ်း၍ တဆက်တည်းဖြစ်သော အောက်ပုဒ်မအရ၊ တရားလွှတ်တော်ချုပ်၏ ဆုံးဖြတ်ချက်ကို မေးမြန်းတောင်းဆို ခြင်းမပြုလျှင်၊ ထိုဥပဒေကြမ်းကို တင်သွင်းသည်ဟုစ၍ တလအတွင်း လက်မှတ်ရေးထိုး ရမည်။

၁၇၀။ ။(၁) နိုင်ငံတော်သမတထံသို့ တဆက်တည်းဖြစ်သော အထက်ပုဒ်မအရ တင်သွင်းသော ဥပဒေကြမ်းသည်၊ သို့တည်းမဟုတ်ထိုဥပဒေကြမ်း၏ တစိတ်တဒေသသည်၊ ဤအခြေခံဥပဒေနှင့် ဆန့်ကျင်သည်၊ မဆန့်ကျင်သည်ဟူသော ပြဿနာကိုဆုံးဖြတ် ပေးရန်၊ တရားလွှတ်တော်ချုပ်သို့ နိုင်ငံတော်သမတသည်၊ မိမိ၏သဘောအတိုင်း ထိုဥပဒေကြမ်းကို လွှဲအပ်နိုင်သည်။

(၂) လွှတ်တော်ချုပ်တရားဝန်ကြီးသုံးဦးအောက်မနည်းပါဝင်သော ခုံတော်သည် လွှဲအပ်သော ပြဿနာကို စဉ်းစားရမည်။ လွှဲအပ်သောပြဿနာကို သင့်မြတ်လျော်ကန်သည်ဟု ထင်မြင်သည့်အတိုင်း ကြားနာစစ်ဆေးစဉ်းစား ပြီးနောက်၊ ထိုပြဿနာနှင့် စပ်လျဉ်း၍ လွှဲအပ်ပြီးသည့် နောက်ရက်ပေါင်း ၃၀ အောက်နောက်မကျစေဘဲ၊ မိမိတို့၏ ဆုံးဖြတ်ချက်ကို လျင်မြန်နိုင်သမျှလျင်မြန်စွာ တရားရုံးတွင် အထင်အရှားကျေညာ ရမည်။ ဤပုဒ်မ၏ ကိစ္စများအလို့ငှါ၊ တရားဝန်ကြီး များရာ၏ ဆုံးဖြတ်ချက်သည်၊ တရား လွှတ်တော်ချုပ်၏ ဆုံးဖြတ်ချက်ဖြစ်ရမည်။

(၃) ဤပုဒ်မအရ တရားလွှတ်တော်ချုပ်သို့ လွှဲအပ်သောဥပဒေကြမ်းရှိ ပြဋ္ဌာန်းချက်သည်၊ ဤအခြေခံ ဥပဒေနှင့်ဆန့်ကျင်သည်ဟု တရားလွှတ်တော်ချုပ်က ဆုံးဖြတ်သော

ကိစ္စတိုင်း၌၊ နိုင်ငံတော်သမတသည်၊ ထိုဥပဒေကြမ်းကို ပြန်လည်စဉ်းစား ဆွေးနွေးစေရန် ပြည်နယ်ကောင်စီသို့ ပြန်ပို့ရမည်။ ပြည်နယ်ကောင်စီက လိုအပ်သော ပြင်ဆင်ချက်များကိုမပြုလျှင်၊ နိုင်ငံတော်သမတသည်၊ ထိုဥပဒေကြမ်းကိုလက်မှတ် မထိုးဟု ငြင်းဆိုရမည်။

(၄) ဤသို့ငြင်းဆိုဘွယ်မရှိလျှင်၊ နိုင်ငံတော် သမတသည်၊ တရားလွှတ်တော်ချုပ်က အဆုံးအဖြတ်ကို ထုတ်ဖေါ်ကျေညာပြီးသည့်နောက်၊ လျင်မြန်နိုင်သမျှ လျင်မြန်စွာ ထိုဥပဒေကြမ်းကိုလက်မှတ်ထိုး၍၊ အက်ဥပဒေ ဖြစ်လာကြောင်းထုတ်ပြန် ကျေညာရမည်။

(၅) တဆက်တည်းဖြစ်သော အထက်ပုဒ်မအရ တင်သွင်းသော ဥပဒေကြမ်းကို တရားလွှတ်တော်ချုပ်သို့မလွှဲမအပ်ဘဲနှင့်ဖြစ်စေ၊ လွှဲအပ်ပြီးမှဖြစ်စေ၊ နိုင်ငံတော် သမတကလက်မှတ်ထိုးပြီးခဲ့လျှင်၊ ပြည်နယ်ကောင်စီက ပြုပိုင်ခွင့်မရှိဟူသော အကြောင်းပြချက်ဖြင့်၊ ထိုဥပဒေကြမ်း ရှိပြဋ္ဌာန်းချက်သည် မခိုင်လုံဟုငြင်းဆိုခြင်းမပြုရ။

၁၇၁။ ။ နိုင်ငံတော်သမတ လက်မှတ်ထိုးသော ပြည်နယ်ကောင်စီအက်ဥပဒေစာမူတိုင်းကို တရားလွှတ်တော်ချုပ်အတွင်းဝန်ရုံး၌ မော်ကွန်းတင်ရမည်။ မိတ္တူတိုင်းကိုလည်း ကချင်ပြည်နယ်ဝန်ကြီးရုံး၌ မော်ကွန်းတင်ရမည်။

၁၇၂။ ။ကချင်ပြည်နယ်ဥက္ကဋ္ဌသည်၊ အခါကာလအားလျော်စွာပြည်နယ်ကောင်စီကို ဆင့်ခေါ်နိုင်သည်၊ ရုပ်သိမ်းနိုင်သည်။ သို့ရာတွင် ပြည်နယ်ကောင်စီ၏ ညီလာခံကို နှစ်စဉ် တနှစ်လျှင်အနည်းဆုံးတကြိမ်ကျင်းပရမည်။ထိုသို့ကျင်းပသောအခါပြည်နယ်ကောင်စီညီလာခံတခု၏ နောက်ဆုံးအစည်းအဝေးနှင့် နောက်ထပ်ကျင်းပသော ပြည်နယ် ကောင်စီညီလာခံ၏ ပဌမအစည်းအဝေးတို့၏ စပ်ကြားတွင် ၁၂ လခြားမနေစေရ။

## ကချင်ပြည်နယ်အစိုးရ။

၁၇၃။ ။ဝန်ကြီးချုပ်သည်၊ကချင်ပြည်နယ်ကောင်စီနှင့်ညှိနှိုင်းတိုင်ပင်၍၊ ပါလီမန်၏ကချင်ပြည်နယ်ဆိုင်ရာကိုယ်စားလှယ်အမတ်များအနက် ကချင်အမျိုးသားအမတ် တဦးဦး၏ အမည်ကိုတင်သွင်းသောအခါ၊ ထိုသို့အမည် တင်သွင်းခြင်းခံရသောအမတ်ကို နိုင်ငံတော်သမတသည်၊ ''ကချင်ပြည်နယ်ဝန်ကြီး'' ဟုခေါ်တွင် ရမည့်ပြည်ထောင်စုအစိုးရအဖွဲ့ဝင်ဝန်ကြီးအဖြစ်ဖြင့်ခန့်ထားရမည်။ထိုသို့ ခန့်ထားခြင်းခံရသော ဝန်ကြီးသည်၊ ဤအခြေခံ ဥပဒေ၏ ကိစ္စများအတွက် ကချင်ပြည်နယ်ဥက္ကဋ္ဌလည်းဖြစ်ရမည်။

၁၇၄။ ။(၁) ကချင်ပြည်နယ်ဥက္ကဋ္ဌသည်၊ ကချင် ပြည်နယ်စီရင်အုပ်ချုပ်ရေးကိစ္စကို တာဝန်ယူဆောင်ရွက် ရမည်။ ဆိုလိုရင်းမှာ ကချင်ပြည်နယ်ဥက္ကဋ္ဌသည် တိုက်ရိုက် ဖြစ်စေ၊ လက်အောက်ခံအရာရှိများမှတဆင့်ဖြစ်စေ၊ ပြည်နယ်၏ အုပ်ချုပ်မှုအခွင့် အာဏာကို သုံးစွဲနိုင်ရမည်။

(၂) မထိခိုက်စေဘဲ၊ ဆိုခဲ့သောအုပ်ချုပ်မှုအခွင့်အာဏာသည်၊ ပြည်နယ်အုပ်ချုပ်ရေးဆိုင်ရာရာထူးမှုထမ်းများ ခန့်ထားခြင်း၊နေရာချခြင်း၊ရွှေ့ပြောင်းပေးခြင်း၊ ထိုရာထမ်း မှုထမ်းများ စည်းကမ်းသေဝပ် ခြင်းကိစ္စအားလုံးသို့ သက်ရောက်ပြန့်နှံ့ရမည်။

ခြွင်းချက်။ ။သို့ရာတွင် ကချင်အမျိုးသား မဟုတ်သူများရာတို့ နေထိုင်သောဒေသများနှင့် စပ်လျဉ်း၍၊ ပြည်နယ်ဥက္ကဋ္ဌသည် အဆိုပါကိစ္စအားလုံးတွင် အစိုးရအဖွဲ့ ဝင်များအနက် ကချင်အမျိုးသား မဟုတ်သူများ၏ ကိုယ်စားလှယ်များနှင့် ညှိနှိုင်းတိုင်ပင်၍သာလျှင်၊ ဆောင်ရွက် ရမည်။

၁၇၅။ ။(၁) ဤအခြေခံဥပဒေရှိ ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ၊ ပြည်နယ်၏အုပ်ချုပ်မှုအခွင့် အာဏာသည်၊ ပြည်နယ်ကောင်စီကတရားဥပဒေပြုပိုင်သောကိစ္စများသို့ သက်ရောက်ပြန့်နှံ့သည်။ အုပ်ချုပ်မှု အခွင့်အာဏာကိုသုံးစွဲရာတွင် ပြည်နယ်ဥက္ကဋ္ဌသည်၊ ကောင်စီ၏ဆုံးဖြတ်ချက်ကို လိုက်နာရမည်။

(၂) ပြည်နယ်ဆိုင်ရာ အခြားကိစ္စအားလုံးတွင် ပြည်နယ်ဥက္ကဋ္ဌသည်၊ ပြည်နယ်ကောင်စီနှင့် ညှိနှိုင်းတိုင်ပင် ရမည်။

(၃) ကချင်ပြည်နယ်ကောင်စီ၏ဆုံးဖြတ်ချက်များနှင့် ထင်မြင်ချက်များကို ပြည်နယ်ဥက္ကဋ္ဌထံသို့ တင်ပြရာ တွင်လွယ်ကူစိမ့်သောငှါ၊ ပြည်နယ်ကောင်စီသည် ရွေးကောက်ပွဲပြီးသည့် နောက်၊ ပဌမ အကြိမ်ကျင်းပသောအစည်းအဝေးတွင် ကောင်စီအမတ်များထဲမှသော်၎င်း၊ ကောင်စီအမတ် မဟုတ်သူများထဲမှသော်၎င်း ရွေးချယ်၍ ပြည်နယ် အစိုးရအဖွဲ့ကို ဖွဲ့စည်းရမည်။ ထိုအစိုးရ အဖွဲ့သည်၊ ပြည်နယ်ဥက္ကဋ္ဌကို အလုပ်ဝတ် တရားများ ဆောင်ရွက်ရာတွင် ကူညီရန်၊ အကြံပေးရန်ဖြစ်သည်။

ခြွင်းချက်။ ။သို့ရာတွင် ပြည်နယ်အစိုးရအဖွဲ့ဝင် ထက်ဝက်အောက်မလျော့သောအဖွဲ့ဝင်များသည် ကချင်အမျိုးသား မဟုတ်သော အမျိုးသားများဖြစ်ရမည်။

၁၇၆။ ။ပြည်နယ်ဥက္ကဋ္ဌသည်၊ပြည်နယ်ကောင်စီ၏သာမန်ညီလာခံကျင်းပသောအခါများ၌၊ မိမိ ဆောင်ရွက်ခဲ့သော လုပ်ငန်းဆောင်တာအကြောင်းကို ပြောကြားရမည်။ သို့တည်းမဟုတ် ပြောကြားစေရမည်။ ကချင်ပြည်နယ် ကိစ္စအားလုံးနှင့်သက်ဆိုင်သော အစီရင်ခံစာကိုတင်သွင်းရမည်။ သို့တည်းမဟုတ် တင်သွင်းစေရမည်။ ပြည်နယ်၏အကျိုး စီးပွါးတိုးတက်ရာတိုးတက်ကြောင်းဖြစ်သည်ဟု ထင်မြင်ယူဆသောစီမံချက်များကို ပြည်နယ်ကောင်စီကစဉ်းစားဆွေးနွေး ရန်ထောက်ခံ အကြံပေးရမည်။

၁၇၇။ ။(၁) ပြည်နယ်ဥက္ကဋ္ဌသည်၊ ဘဏ္ဍာတော်နှစ်တိုင်းတနှစ်အတွက် ပြည်နယ်ဆိုင်ရာအရ မှန်းခြေငွေစာရင်းနှင့် အသုံးမှန်းခြေငွေစာရင်းများကို ပြုရမည်။ သို့တည်းမဟုတ် ပြုစေရမည်။သို့တည်းမဟုတ်တင်သွင်းစေရမည်။

(၂) ပြည်ထောင်စုအစိုးရ၏ အထောက်အပံ့ငွေနှင့်စပ်လျဉ်း၍၊ ပြည်ထောင်စု အစိုးရက သတ်မှတ်သော စည်းကမ်းချက်များနှင့် မဆန့်ကျင်စေဘဲ၊ ပြည်နယ်ကောင်စီသည်၊ ပြည်နယ်၏ ဘတ်ဂျက်ကို လက်ခံအတည်ပြုနိုင်ရန်အာဏာရှိရမည်။ထိုစည်းကမ်းချက်များ အတိုင်း ပြည်နယ်ကောင်စီကကျနစွာ လိုက်နာကြောင်း နိုင်ငံတော်သမတအား ကျေနပ်နိုင်စေရန် ပြည်နယ်ဘတ်ဂျက်ကို ပြည်ထောင်စု အစိုးရ၏ဘတ်ဂျက်တွင် ထည့်သွင်းဖေါ်ပြရမည်။

၁၇၈။ ။ဤအခြေခံဥပဒေ၏ အခန်း ၁၀ ရှိ၊ ပြဋ္ဌာန်းချက်များသည်၊ ကချင်ပြည်နယ်နှင့် မသက်ဆိုင်ရ။

၁၇၉။ ။ ဤအခြေခံဥပဒေရှိ ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ၊ ပြည်နယ်ဥက္ကဋ္ဌ၊ ပြည်နယ်ကောင်စီ၊

ပြည်နယ်အစိုးရအဖွဲ့တို့၏ အာဏာနှင့် တာဝန်ဝတ်တရား များဆိုင်ရာကိစ္စများ၊ ထို့ပြင်ထိုဥက္ကဋ္ဌ၊ ထိုကောင်စီ၊ ထိုအစိုးရဖွဲ့တို့အချင်းချင်းဆက်ဆံရေးကိစ္စများ၊ ထို့ပြင်ထိုဥက္ကဋ္ဌ၊ ထိုကောင်စီ၊ ထိုအစိုးရအဖွဲ့တို့နှင့် ပြည်ထောင်စုအစိုးရ၏ ဆက်ဆံရေးကိစ္စများပါဝင်သော ပြည်နယ်၏ ဖွဲ့စည်း အုပ်ချုပ်ပုံအခြေခံဥပဒေဆိုင်ရာ ကိစ္စအားလုံးကို၊ တရားဥပဒေဖြင့် ပြဋ္ဌာန်းသတ်မှတ်ရမည်။

## အပိုင်း ၃။ ကရင်ပြည်နယ်။

၁၈၀ ။ ။ (၁) သံလွင်ခရိုင်ဟု ယခင်ကခေါ်တွင်ခဲ့သောနယ်မြေကို ပြည်ထောင်စု မြန်မာနိုင်ငံအတွင်းတွင်၊ ပြည်ထောင်စု အဖွဲ့ဝင်တစ်ခုအဖြစ် ဖြင့် ဖွဲ့စည်းရမည်။ ထိုပြည်ထောင်စုအဖွဲ့ဝင်ကို ဤမှနောင် အဘို့တွင် ''ကရင်ပြည်နယ်'' ဟု ခေါ်တွင်စေရမည်။ ပါလီမန် ၏အက်ဥပဒေဖြင့် သတ်မှတ်သော ကရင်အမျိုးသားများနေထိုင်ကြသည့် သံလွင်ခရိုင်၏ ဆက်စပ်ဒေသများသည် လည်း ထိုပြည်နယ်တွင် ပါဝင်ရမည်။

(၂) ပါလီမန်၏ ကရင်ပြည်နယ်ဆိုင်ရာ ကိုယ်စားလှယ်အမတ် အားလုံးပါဝင်သည့် ကရင်ပြည်နယ် ကောင်စီကို ဖွဲ့စည်းရမည်။

(၃) ပါလီမန်အမတ်အဖြစ်မှရပ်စဲသော ပြည်နယ်ကောင်စီအမတ် သည် ကောင်စီ၌ လည်း ကောင်စီအမတ်အဖြစ်မှ ရပ်စဲသည်ဟု မှတ်ယူရမည်။ သို့ရာတွင် ထိုကောင်စီအမတ်သည်၊ မိမိအား ဆက်ခံမည့်သူကို ရွေးကောက်တင်မြှောက်ပြီးသည့်တိုင်အောင် မိမိ၏ တာဝန်ဝတ္တရားများကို ဆက်လျှက်ဆောင်ရွက်နိုင်သည်။

(၄) ပြည်နယ်ကောင်စီသည် မိမိကိုယ်တိုင် ဥပဒေပြုပိုင်ခွင့်မရှိသော ကိစ္စနှင့်သက်ဆိုင်သည့် ဥပဒေများကိုပြုပေးရန်၊ ပါလီမန်သို့ ထောက်ခံချက်တင်သွင်းနိုင်သည်။

(၅) ပြည်နယ်ကောင်စီသည် ဥပဒေကြမ်းတစ်ခုကို အတည်ပြုပြီးသော အခါ၊ ထိုဥပဒေကြမ်းကို လက်မှတ်ထိုး၍ ထုတ်ပြန်ကျေညာပေးရန် နိုင်ငံတော်သမ္မတထံသို့ တင်သွင်းရမည်။ နိုင်ငံတော် သမ္မတသည်၊ အဆိုပါဥပဒေကြမ်းနှင့်စပ်လျဉ်း၍ ပုဒ်မခွဲ(၆)အရ၊ တရားလွှတ်တော်ချုပ်၏ ဆုံးဖြတ်ချက်ကို မေးမြန်းတောင်းဆို ခြင်းမပြုလျှင် ထိုဥပဒေကြမ်းကို တင်သွင်းသည်မှစ၍ တစ်လ အတွင်းတွင် လက်မှတ်ထိုးရမည်။

(၆) နိုင်ငံတော်သမ္မတထံသို့ ပုဒ်မခွဲ(၅)အရ တင်သွင်းသောဥပဒေကြမ်းသည် သို့တည်းမဟုတ်ဥပဒေကြမ်း၏တစ်စိတ်တစ်ဒေသ သည်၊အခြေခံဥပဒေနှင့်ဆန့်ကျင်သည် မဆန့်ကျင်သည်ဟူသော ပြဿနာကိုဆုံးဖြတ်ပေးရန်နိုင်ငံတော်သမ္မတသည် မိမိ၏ သဘောအတိုင်း တရားလွှတ်တော်ချုပ်သို့ ထိုဥပဒေကြမ်းကို လွှဲအပ်နိုင်သည်။

(၇) လွှတ်တော်ချုပ်တရားဝန်ကြီးသုံးဦးအောက် မနည်းပါဝင်သောခုံတော်သည်၊ လွှဲအပ်သောပြဿနာကိုစဉ်းစားရမည်။ လွှဲအပ်သောပြဿနာကို သင့်မြတ်လျော်ကန်သည်ဟု ထင်မြင်သည့် အတိုင်း၊ ကြားနာစစ်ဆေးစဉ်းစားပြီးသောအခါ ထိုပြဿနာ နှင့်စပ်လျဉ်း၍ လွှဲအပ်ပြီးသည့်နောက် ရက်ပေါင်း ၃၀ အောက် နောက်မကျစေဘဲ၊ မိမိတို့၏ဆုံးဖြတ်ချက်ကို

လျှင်မြန်နိုင်သမျှ လျှင်မြန်စွာ တရားရုံးတွင် အထင်အရှား ကျေညာရမည်။ ပုဒ်မခွဲ(၆)၏ ကိစ္စများအလို့ငှာ၊ တရားဝန်ကြီးများရာ၏ ဆုံးဖြတ်ချက်သည် တရားလွှတ်တော်ချုပ်၏ ဆုံးဖြတ်ချက် ဖြစ်ရမည်။

(၈) ပုဒ်မခွဲ(၆)အရ တရားလွှတ်တော်ချုပ်သို့ လွှဲအပ်သောဥပဒေ ကြမ်းရှိ ပြဋ္ဌာန်းချက်သည်၊ အခြေခံဥပဒေနှင့် ဆန့်ကျင်သည်ဟု တရားလွှတ်တော်ချုပ်က ဆုံးဖြတ်သော ကိစ္စတိုင်း၌၊နိုင်ငံတော် သမ္မတသည်၊ ထိုဥပဒေကြမ်းကို ပြန်လည်စဉ်းစားဆွေးနွေး စေရန် ပြည်နယ်ကောင်စီသို့ ပြန်ပို့ရမည်၊ ပြည်နယ်ကောင်စီက လိုအပ်သောပြင်ဆင်ချက်များကိုမပြုလျှင်၊ နိုင်ငံတော်သမ္မတသည်၊ ထိုဥပဒေကြမ်းကို လက်မှတ်မထိုးဟု ငြင်းဆိုရမည်။

(၉) ထိုသို့ငြင်းဆိုဘွယ်မရှိလျှင်၊ နိုင်ငံတော်သမ္မတသည် တရား လွှတ်တော်ချုပ်က အဆုံးအဖြတ်ကို ထုတ်ဖော်ကျေညာပြီး သည့်နောက်၊ လျှင်မြန်နိုင်သမျှ လျှင်မြန်စွာ ထိုဥပဒေကြမ်းကို လက်မှတ်ထိုး၍ အက်ဥပဒေဖြစ်လာကြောင်း ထုတ်ပြန် ကျေညာရမည်။

(၁၀) ပုဒ်မခွဲ (၅)အရ တင်သွင်းသောဥပဒေကြမ်းကို တရားလွှတ်တော်ချုပ်က မလွှဲမအပ်ဘဲနှင့်ဖြစ်စေ၊ လွှဲအပ်ပြီးမှဖြစ်စေ၊ နိုင်ငံတော် သမ္မတက လက်မှတ်ထိုးပြီးခဲ့လျှင် ပြည်နယ်ကောင်စီက ပြုပိုင်ခွင့်မရှိဟူသော အကြောင်းပြချက်ဖြင့် ထိုဥပဒေကြမ်းရှိ ပြဋ္ဌာန်းချက်သည် မခိုင်လုံဟု ငြင်းဆိုခြင်းမပြုရ။

(၁၁) နိုင်ငံတော်သမ္မတ လက်မှတ်ထိုးသော ပြည်နယ်ကောင်စီ အက်ဥပဒေစာမူတိုင်းကို တရား လွှတ်တော်ချုပ်၏ အတွင်းဝန်ရုံး၌ မော်ကွန်းတင်ရမည်။ မိတ္တူတိုင်းကိုလည်း၊ ကရင်ပြည်နယ် ဝန်ကြီးရုံး၌ မော်ကွန်းတင်ရမည်။

(၁၂) ကရင်ပြည်နယ်ဥက္ကဋ္ဌသည်၊ အခါကာလအားလျော်စွာ ပြည်နယ် ကောင်စီကို ဆင့်ခေါ်နိုင်သည်၊ ရုပ်သိမ်းနိုင်သည်။ သို့ရာတွင် ပြည်နယ်ကောင်စီ၏ညီလာခံကို နှစ်စဉ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ်ကျင်းပရမည်။ ထိုသို့ကျင်းပသောအခါ၊ ပြည်နယ် ကောင်စီညီလာခံတစ်ခု၏ နောက်ဆုံးအစည်းအဝေးနှင့် နောက်ထပ် ကျင်းပသော ပြည်နယ်ကောင်စီညီလာခံ၏ ပဌမအစည်းအဝေးတို့၏အကြားတွင် ၁၂ လခြား မနေစေရ။[၁]

## ကရင်ပြည်နယ်အစိုးရ။

၁၈၁။ ။ (၁) ဝန်ကြီးချုပ်သည်၊ ကရင်ပြည်နယ်ကောင်စီနှင့် ညှိနှိုင်းတိုင်ပင်၍ ထိုကောင်စီ အမတ်များ အနက်၊ အမတ်တစ်ဦးဦး၏အမည်ကို တင်သွင်းသောအခါ၊ ထိုသို့အမည် တင်သွင်းခြင်းခံရသောအမတ်ကို နိုင်ငံတော်သမ္မတသည်၊ အောက်တွင် " ကရင် ပြည်နယ်ဝန်ကြီး " ဟုခေါ်တွင်ရမည်ဖြစ်သော၊ ပြည်ထောင်စုအစိုးရအဖွဲ့ဝင်ဝန်ကြီးအဖြစ်ဖြင့် ခန့်ထားရမည်။ ထိုသို့ခန့်ထားခြင်းခံရသောဝန်ကြီးသည်၊ အခြေခံဥပဒေ၏ကိစ္စများအတွက်

---

၁ (၁၉၅၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၆၂။)ဖြင့်ပြင်ဆင်

ကရင်ပြည်နယ် ဥက္ကဋ္ဌလည်း ဖြစ်ရမည်။

(၂) ကရင်ပြည်နယ်ဥက္ကဋ္ဌသည်၊ ကရင်ပြည်နယ်စီရင်အုပ်ချုပ်ရေး ကိစ္စကို တာဝန်ယူ၍ဆောင်ရွက်ရမည်၊ ဆိုလိုရင်းမှာ၊ ကရင် ပြည်နယ်ဥက္ကဋ္ဌသည် တိုက်ရိုက်ဖြစ်စေ၊ လက်အောက်ခံအရာရှိ များမှတစ်ဆင့်ဖြစ်စေ၊ ပြည်နယ်၏အုပ်ချုပ်မှုအခွင့်အာဏာ ကိုသုံးစွဲနိုင်ရမည်။

(၃) ပုဒ်မခွဲ(၄)ရှိ ပြဋ္ဌာန်းချက်များ၏ ယေဘူယျသဘောကို မထိခိုက် စေဘဲဆိုခဲ့သော အုပ်ချုပ်မှုအခွင့်အာဏာသည်၊ ပြည်နယ် အုပ်ချုပ်ရေးဆိုင်ရာ အရာထမ်း၊ အမှုထမ်းများ ခန့်ထားခြင်း၊ နေရာချခြင်း၊ ရွှေ့ပြောင်းပေးခြင်း၊ ထိုအရာထမ်းအမှုထမ်းများ စည်းကမ်း သေဝပ်ခြင်းကိစ္စအားလုံးသို့ သက်ရောက် ပြန့်နှံ့ရမည်။

(၄) အခြေခံဥပဒေရှိ ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ၊ ပြည်နယ်၏ အုပ်ချုပ်မှုအခွင့်အာဏာသည်၊ ပြည်နယ်ကောင်စီက တရား ဥပဒေပြုပိုင်သော ကိစ္စများသို့ သက်ရောက်ပြန့်နှံ့သည်။ အုပ်ချုပ်မှု အခွင့်အာဏာကို သုံးစွဲရာတွင်၊ ပြည်နယ်ဥက္ကဋ္ဌသည်ကောင်စီ ၏ဆုံးဖြတ်ချက်ကို လိုက်နာရမည်။

(၅) ပြည်နယ်ဆိုင်ရာ အခြားကိစ္စအားလုံးတွင် ပြည်နယ်ဥက္ကဋ္ဌသည် ပြည်နယ်ကောင်စီနှင့် ညှိနှိုင်းတိုင်ပင်ရမည်။

(၆) ကရင်ပြည်နယ်ကောင်စီ၏ဆုံးဖြတ်ချက်များနှင့် ထင်မြင်ချက်များကို ပြည်နယ်ဥက္ကဋ္ဌထံသို့တင်ပြရာတွင် လွယ်ကူစိမ့်သောငှာ ပြည်နယ်ကောင်စီသည် ရွေးကောက်ပွဲပြီးသည့်နောက် ပဌမ အကြိမ်ကျင်းပသော အစည်းအဝေးတွင် ကောင်စီအမတ်များ ထဲမှသော်လည်းကောင်း၊ ကောင်စီ အမတ်မဟုတ်သူများထဲမှ သော်လည်းကောင်း ရွေးချယ်၍ ပြည်နယ်အစိုးရအဖွဲ့ကို ဖွဲ့စည်းရမည်။ ထိုအစိုးရအဖွဲ့သည် ပြည်နယ်ဥက္ကဋ္ဌကို အလုပ်ဝတ္တရား များဆောင်ရွက်ရာတွင် ကူညီရန် အကြံပေးရန်ဖြစ်သည်။

(၇) ပြည်နယ်ဥက္ကဋ္ဌသည် ပြည်နယ်ကောင်စီ၏သာမန်ညီလာခံ ကျင်းပသောအခါများ၌၊ မိမိဆောင်ရွက်ခဲ့သော လုပ်ငန်း ဆောင်တာအကြောင်းကို ပြောကြားရမည်၊ သို့တည်းမဟုတ် ပြောကြားစေရမည်။ ကရင်ပြည်နယ်ကိစ္စအားလုံးနှင့်သက် ဆိုင်သော အစီရင်ခံစာကို တင်သွင်းရမည်၊ သို့တည်းမဟုတ် တင်သွင်းစေရမည်။ ပြည်နယ်၏ အကျိုးစီးပွားတိုးတက်ရာ တိုးတက်ကြောင်း ဖြစ်သည်ဟုထင်မြင်ယူဆသော စီမံချက်များကို စဉ်းစားဆွေးနွေးစေရန် ပြည်နယ်ကောင်စီအား ထောက်ခံ အကြံပေးရမည်။

(၈) ပြည်နယ်ဥက္ကဋ္ဌသည်၊ ဘဏ္ဍာတော်နှစ်တိုင်း တစ်နှစ်အတွက် ပြည်နယ်ဆိုင်ရာအရမှန်းခြေငွေ စာရင်းနှင့် အသုံးမှန်းခြေ ငွေစာရင်းများကို ပြုရမည်၊ သို့တည်းမဟုတ်ပြုစေရမည်၊ ထိုငွေစာရင်း များကို စဉ်းစားဆွေးနွေးစေရန်၊ ပြည်နယ်ကောင်စီ သို့တင်သွင်းရမည်၊ သို့တည်းမဟုတ် တင်သွင်းစေရမည်။

(၉) ပြည်ထောင်စုအစိုးရ၏အထောက်အပံ့ငွေနှင့်စပ်လျဉ်း၍ပြည်ထောင်စုအစိုးရကသတ်မှတ်သော

စည်းကမ်းချက်များနှင့်မဆန့်ကျင်စေဘဲ၊ ပြည်နယ်ကောင်စီသည် ပြည်နယ်၏ ဘတ်ဂျက်ကို လက်ခံအတည်ပြုနိုင်ရန် အာဏာရှိရမည်၊ ထို စည်းကမ်းချက်များအတိုင်း၊ ပြည်နယ်ကောင်စီကကျနစွာ လိုက်နာကြောင်း၊ နိုင်ငံတော်သမ္မတအား ကျေနပ်နိုင်စေရန်ပြည်နယ်၏ဘတ်ဂျက်ကို ပြည်ထောင်စုအစိုးရ၏ ဘတ်ဂျက်တွင်ထည့်သွင်းဖော်ပြရမည်။

(၁၀) ဤအခြေခံဥပဒေ၏အခန်း ၁၀ ရှိ ပြဋ္ဌာန်းချက်များသည် ကရင်ပြည်နယ်နှင့် မသက်ဆိုင်စေရ။

(၁၁) အခြေခံဥပဒေရှိ ပြဋ္ဌာန်းချက်များနှင့်မဆန့်ကျင်စေဘဲ၊ ပြည်နယ် ဥက္ကဋ္ဌ၊ ပြည်နယ်ကောင်စီ၊ ပြည်နယ်အစိုးရအဖွဲ့တို့၏ အာဏာ နှင့်တာဝန်ဝတ္တရားများဆိုင်ရာကိစ္စများ၊ ထို့ပြင် ထိုဥက္ကဋ္ဌ၊ ထိုကောင်စီ၊ ထိုအစိုးရအဖွဲ့တို့အချင်းချင်းဆက်ဆံရေးကိစ္စ များ၊ ထို့ပြင် ထိုဥက္ကဋ္ဌ၊ ထိုကောင်စီ၊ ထိုအစိုးရအဖွဲ့တို့နှင့်ပြည်ထောင်စုအစိုးရ၏ ဆက်ဆံရေးကိစ္စများပါဝင်သော ပြည်နယ်၏ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေဆိုင်ရာကိစ္စ အားလုံးကို တရားဥပဒေဖြင့် ပြဋ္ဌာန်းသတ်မှတ်ရမည်။[၁]

ခြွင်းချက်။ ။ သို့ရာတွင် ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေပုဒ်မ ၂၃၃အရ၊ ပဋ္ဌမအမတ်ရွေးကောက်ပွဲ ကျင်းပပြီးလျှင် ဖွဲ့စည်းသောပါလီမန်ကို ဖျက်သိမ်းသောနေ့အထိ၊ကရင်ပြည်နယ်ကောင်စီကို ပါလီမန်ရှိ ကရင်အမျိုးသား ၏ကိုယ်စားလှယ်အမတ်အားလုံးဖြင့် ဖွဲ့စည်းရမည်။ ¨

## အပိုင်း ၄။ ကယားပြည်နယ်။

၁၈၂။ ။ (၁) ပဒေသရာဇ် ရှမ်းပြည်နယ်စုရှိ မိုးဗြဲနယ်ဟု ယခင်ကခေါ်တွင်ခဲ့သော နယ်မြေကို ထိုနယ်မြေ၌နေထိုင်ကြသူများက အလိုရှိခဲ့သော် ကယားပြည်နယ်[၂] အတွင်းသို့ပေါင်းသွင်းရမည်။

(၂) ထိုနယ်မြေရှိလူအများ၏ ဆန္ဒအမှန်ကို စုံစမ်းရာ၌ လိုက်နာရန်ဖြစ်သော နည်းလမ်းတို့သည် တရား ဥပဒေဖြင့်သတ်မှတ်သည့်အတိုင်း ဖြစ်ရမည်။

၁၈၃။ ။(၁) × × × ×[၃]

(၂) ပါလီမန်၏ ကယားပြည်နယ်ဆိုင်ရာ ကိုယ်စားလှယ်အမတ်အားလုံး ပါဝင်သည့် ကယားပြည်နယ်[၄] ကောင်စီကို ဖွဲ့စည်းရမည်။

(၃) ပါလီမန်အမတ်အဖြစ်မှ ရပ်စဲသော ပြည်နယ်ကောင်စီအမတ်သည်၊ ကောင်စီ၌လည်း ကောင်စီ အမတ်အဖြစ်မှရပ်စဲသည်ဟုမှတ်ယူရမည်။ သို့ရာတွင် ထိုကောင်စီ အမတ်သည်

၁ (၁၉၅၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၆၂။) ဖြင့်ပြင်ဆင်

၂ (၁၉၅၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၆၂။) ဖြင့်ပြင်ဆင်

၃ (၁၉၅၉ ခုနှစ်၊ အက်ဥပဒေအမှတ် ၁၀။)ဖြင့်ပယ်ဖျက်

၄ (၁၉၅၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၆၂။) ဖြင့်ပြင်ဆင်

မိမိအားဆက်ခံမည့်သူကို ရွေးကောက်တင် မြှောက်ပြီးသည့်တိုင်အောင်၊ မိမိ၏ တာဝန်ဝတ်တရားများကို ဆက်လက် ဆောင်ရွက်နိုင်သည်။

၁၈၄။ ။ပြည်နယ်ကောင်စီသည်မိမိကိုယ်တိုင်ဥပဒေပြုပိုင်ခွင့်မရှိသောကိစ္စနှင့်သက်ဆိုင်သည့်ဥပဒေများကိုပြုပေးရန် ပါလီမန်သို့ ထောက်ခံချက် တင်သွင်းနိုင်သည်။

၁၈၅။ ။ပြည်နယ်ကောင်စီသည်ဥပဒေကြမ်းတခုကိုအတည်ပြုပြီးသောအခါ၊ ထိုဥပဒေကြမ်းကို လက်မှတ်ထိုး၍ ထုတ်ပြန်ကျေညာပေးရန် နိုင်ငံတော်သမတ ထံသို့တင်သွင်းရမည်။ နိုင်ငံတော်သမတသည် အဆိုပါ ဥပဒေကြမ်းနှင့်စပ်လျဉ်း၍၊ တဆက်တည်းဖြစ်သော အောက်ပုဒ်မအရ၊တရားလွှတ်တော်ချုပ်၏ ဆုံးဖြတ်ချက်ကို မေးမြန်းတောင်းဆိုခြင်းမပြုလျှင်၊ ထိုဥပဒေကြမ်းကို တင်သွင်းသည်မှစ၍ တလအတွင်းတွင် လက်မှတ်ထိုး ရမည်။

၁၈၆။ ။ (၁) နိုင်ငံတော်သမတထံသို့တဆက်တည်းဖြစ်သော အထက်ပုဒ်မအရ၊ တင်သွင်းသော ဥပဒေကြမ်းသည်၊ သို့တည်းမဟုတ်ထိုဥပဒေကြမ်း၏ တစိတ်တဒေသသည်၊ ဤအခြေခံဥပဒေနှင့် ဆန့်ကျင်သည်၊ မဆန့်ကျင်သည်ဟူသော ပြဿနာကိုဆုံးဖြတ်ပေးရန် နိုင်ငံတော်သမတသည်၊မိမိ၏သဘောအတိုင်းတရားလွှတတော်ချုပ်သို့ ထိုဥပဒေကြမ်းကို လွှဲအပ်နိုင်သည်။

(၂) လွှတ်တော်ချုပ်တရားဝန်ကြီး၃ဦးအောက် မနည်းပါဝင်သော ခုံတော်သည် လွှဲအပ်သောပြဿနာကိုစဉ်းစားရမည်။လွှဲအပ်သောပြဿနာကို သင့်မြတ်လျော်ကန်သည်ဟုထင်မြင်သည့်အတိုင်း ကြားနာစစ်ဆေးစဉ်းစားပြီးသောအခါ၊ ထိုပြဿနာနှင့်စပ်လျဉ်း၍ လွှဲအပ်ပြီးသည့်နောက်၊ ရက်ပေါင်း ၃၀ အောက်နောက် မကျစေဘဲ၊ မိမိတို့၏ ဆုံးဖြတ်ချက်ကို၊ လျင်မြန်နိုင်သမျှ လျင်မြန်စွာ၊ တရားရုံးတွင် အထင်အရှား ကျေညာရမည်။ ဤပုဒ်မ၏ကိစ္စများအလို့ငှါ၊ တရားဝန်ကြီးများရာ၏ ဆုံးဖြတ်ချက်သည် တရားလွှတ်တော်ချုပ်၏ ဆုံးဖြတ်ချက်ဖြစ်ရမည်။

(၃) ဤပုဒ်မအရ၊ တရားလွှတ်တော်ချုပ်သို့ လွှဲအပ်သော ဥပဒေကြမ်းရှိ ပြဋ္ဌာန်းချက်သည်၊ ဤအခြေခံ ဥပဒေနှင့် ဆန့်ကျင်သည်ဟု တရားလွှတ်တော်ချုပ်က၊ ဆုံးဖြတ်သောကိစ္စတိုင်း၌၊ နိုင်ငံတော်သမတသည် ထိုဥပဒေကြမ်းကို ပြန်လည်စဉ်းစားဆွေးနွေးစေရန် ပြည်နယ်ကောင်စီသို့ပြန်ပို့ရမည်။ ပြည်နယ်ကောင်စီကလိုအပ်သော ပြင်ဆင်ချက်များကို မပြုလျှင်၊ နိုင်ငံတော်သမတသည် ထိုဥပဒေ ကြမ်းကို လက်မှတ်မထိုးဟု ငြင်းဆိုရမည်။

(၄) ထိုသို့ငြင်းဆိုဘွယ်မရှိလျှင် နိုင်ငံတော်သမတသည်၊ တရားလွှတ်တော်ချုပ်က အဆုံးအဖြတ်ကို ထုတ်ဖေါ် ကျေညာပြီးသည့်နောက်၊ လျင်မြန်နိုင်သမျှ လျင်မြန်စွာ ထိုဥပဒေကြမ်းကို လက်မှတ်ထိုး၍အက်ဥပဒေ ဖြစ်လာကြောင်း ထုတ်ပြန်ကျေညာ ရမည်။

(၅) တဆက်တည်းဖြစ်သော အထက်ပုဒ်မအရ၊ တင်သွင်းသော ဥပဒေကြမ်းကို တရားလွှတ်တော်ချုပ်သို့ မလွှဲမအပ်ဘဲနှင့်ဖြစ်စေ၊ လွှဲအပ်ပြီးမှဖြစ်စေ၊ နိုင်ငံတော်သမတကလက်မှတ်ထိုးပြီးခဲ့လျှင်၊ ပြည်နယ် ကောင်စီက ပြုပိုင်ခွင့်မရှိဟူသော

အကြောင်းပြချက်ဖြင့်၊ ထိုဥပဒေကြမ်းရှိ ပြဋ္ဌာန်းချက်သည် မခိုင်လုံဟု ငြင်းဆိုခြင်း မပြုရ။

၁၈၇။ ။နိုင်ငံတော်သမတလက်မှတ်ထိုးသောပြည်နယ်ကောင်စီအက်ဥပဒေစာမူတိုင်းကို တရား လွှတ်တော်ချုပ်၏ အတွင်းဝန်ရုံး၌ မော်ကွန်းတင်ရမည်။ မိတ္တူတိုင်းကိုလည်း ကယားပြည်နယ်[၁] ဝန်ကြီးရုံး၌မော်ကွန်းတင်ရမည်။

၁၈၈။ ။ ကယားပြည်နယ်ဥက္ကဋ္ဌသည် အခါကာလအားလျော်စွာ၊ ပြည်နယ်ကောင်စီကို ဆင့်ခေါ်နိုင်သည်၊ရုပ်သိမ်းနိုင်သည်။သို့ရာတွင် ပြည်နယ်ကောင်စီ၏ညီလာခံကို နှစ်စဉ် တနှစ်လျှင်၊ အနည်းဆုံးတကြိမ် ကျင်းပရမည်။ထိုသို့ကျင်းပသောအခါ ပြည်နယ်ကောင်စီညီလာခံတစ်ခု၏ နောက်ဆုံးအစည်း အဝေးနှင့် နောက်ထပ် ကျင်းပသောပြည်နယ်ကောင်စီညီလာခံ၏ ပဌမအစည်းအဝေးတို့၏စပ်ကြားတွင် ၁၂ လ ခြားမနေစေရ။

## ကယားပြည်နယ်အစိုးရ။

၁၈၉။ ။ဝန်ကြီးချုပ်သည်၊ ကယားပြည်နယ်ကောင်စီ နှင့် ညှိနှိုင်းတိုင်ပင်၍ပါလီမန်၏ ကယားပြည်နယ်ဆိုင်ရာ ကိုယ်စားလှယ်အမတ်များအနက် အမတ်တဦးဦး၏အမည်ကို တင်သွင်းသောအခါ၊ ထိုသို့အမည် တင်သွင်းခြင်းခံရသော အမတ်ကိုနိုင်ငံတော်သမတသည်၊ အောက်တွင် ကယားပြည်နယ်[၂] ဝန်ကြီး ဟုခေါ် တွင်ရမည်ဖြစ်သောပြည်ထောင်စုအစိုးရ အဖွဲ့ဝင်ဝန်ကြီးအဖြစ်ဖြင့်ခန့်ထားရမည်။ ထိုသို့ခန့်ထားခြင်း ခံရသောဝန်ကြီးသည် ဤအခြေခံဥပဒေ၏ကိစ္စများအတွက် ကယားပြည်နယ်ဥက္ကဋ္ဌ လည်းဖြစ်ရမည်။

၁၉၀။ ။ (၁) ကယားပြည်နယ်ဥက္ကဋ္ဌသည် ကယား ပြည်နယ် စီရင်အုပ်ချုပ်ရေးကိစ္စကို တာဝန်ယူ၍ ဆောင်ရွက်ရမည်။ ဆိုလိုရင်းမှာ ကယားပြည်နယ်ဥက္ကဋ္ဌသည် တိုက်ရိုက်ဖြစ်စေ၊ လက်အောက်ခံအရာရှိများမှတဆင့်ဖြစ်စေ၊ ပြည်နယ်၏ အုပ်ချုပ်မှုအခွင့်အာဏာကိုသုံးစွဲနိုင်ရမည်။

(၂) တဆက်တည်းဖြစ်သော အောက်ပုဒ်မရှိ ပြဋ္ဌာန်းချက်များ၏ ယေဘုယျသဘောကို မထိခိုက်စေဘဲ၊ ဆိုခဲ့သောအုပ်ချုပ်မှုအခွင့်အာဏာသည်၊ ပြည်နယ်အုပ်ချုပ်ရေးဆိုင်ရာ ရာထမ်း မှုထမ်း များခန့်ထားခြင်း၊ နေရာချခြင်း၊ ရွှေ့ပြောင်းပေးခြင်း၊ ထိုရာထမ်းမှုထမ်း များစည်းကမ်း သေဝပ်ခြင်း ကိစ္စအားလုံးသို့ သက်ရောက် ပြန့်နှံ့ရမည်။

၁၉၁။ ။(၁) ဤအခြေခံဥပဒေရှိ ပြဋ္ဌာန်းချက် များနှင့် မဆန့်ကျင်စေဘဲ၊ ပြည်နယ်၏အုပ်ချုပ်မှု အခွင့် အာဏာသည်၊ ပြည်နယ်ကောင်စီက တရားဥပဒေပြုပိုင်သော ကိစ္စများသို့ သက်ရောက်ပြန့်နှံ့သည်။ အုပ်ချုပ်မှု အခွင့်အာဏာကိုသုံးစွဲရာတွင် ပြည်နယ်ဥက္ကဋ္ဌသည် ကောင်စီ၏ဆုံးဖြတ်ချက်ကို လိုက်နာရမည်။

(၂) ပြည်နယ်ဆိုင်ရာ အခြားကိစ္စအားလုံးတွင် ပြည်နယ် ဥက္ကဋ္ဌလည်း ပြည်နယ်ကောင်စီနှင့် ညှိနှိုင်းတိုင်ပင် ရမည်။

(၃) ကယားပြည်နယ်ကောင်စီ၏ ဆုံးဖြတ်ချက်များနှင့် ထင်မြင်ချက်များကို ပြည်နယ်ဥက္ကဋ္ဌ

---

၁ (၁၉၅၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၆၂။) ဖြင့်ပြင်ဆင်

၂ (၁၉၅၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၆၂။) ဖြင့်ပြင်ဆင်

ထံသို့ တင်ပြရာ တွင်လွယ်ကူစိမ့်သောငှါ၊ ပြည်နယ်ကောင်စီသည် ရွေးကောက်ပွဲပြီးသည့်နောက် ပဌမအကြိမ်ကျင်းပသောအစည်းအဝေးတွင် ကောင်စီအမတ်များထဲမှ သော်၎င်း၊ ကောင်စီအမတ် မဟုတ်သူများထဲမှသော်၎င်း၊ ပြည်နယ် အစိုးရအဖွဲ့ဝင်တဦးကိုဖြစ်စေ၊ အများကိုဖြစ်စေရွေးချယ် နိုင်သည်။ ထိုပြည်နယ် အစိုးရအဖွဲ့ဝင်တဦးသည် သို့တည်းမဟုတ်အများသည် ပြည်နယ်ဥက္ကဋ္ဌကို အလုပ်ဝတ် တရားများဆောင်ရွက်ရာတွင်ကူညီရန်၊ အကြံပေးရန်ဖြစ်သည်။

၁၉၂။ ။ပြည်နယ်ဥက္ကဋ္ဌသည် ပြည်နယ်ကောင်စီ ၏သာမန်ညီလာခံကျင်းပသောအခါများ၌၊ မိမိဆောင်ရွက်ခဲ့သော လုပ်ငန်းဆောင်တာအကြောင်းကို ပြောကြားရမည်။ သို့တည်းမဟုတ်ပြောကြားစေရမည်။ ကယားပြည်နယ်ကိစ္စအားလုံးနှင့်သက်ဆိုင်သော အစီရင်ခံစာကိုတင်သွင်းရမည်။ သို့တည်းမဟုတ် တင်သွင်းစေရမည်။ ပြည်နယ်၏အကျိုး စီးပွါးတိုးတက်ရာ တိုးတက်ကြောင်းဖြစ်သည်ဟု ထင်မြင်ယူဆသော စီမံချက်များကိုစဉ်းစားဆွေးနွေးစေရန် ပြည်နယ်ကောင်စီအား ထောက်ခံအကြံပေးရမည်။

၁၉၃။ ။(၁) ပြည်နယ်ဥက္ကဋ္ဌသည် ဘဏ္ဍာတော် နှစ်တိုင်းတနှစ်အတွက် ပြည်နယ်ဆိုင်ရာအရ မှန်းခြေငွေစာရင်းနှင့် အသုံးမှန်းခြေငွေစာရင်းများကိုပြုရမည်။ သို့တည်းမဟုတ်ပြု စေရမည်။ ထိုငွေစာရင်းများကို စဉ်းစား ဆွေးနွေးစေရန် ပြည်နယ်ကောင်စီသို့ တင်သွင်းရမည်။ သို့တည်းမဟုတ်တင်သွင်းစေရမည်။

(၂) ပြည်ထောင်စုအစိုးရ၏ အထောက်အပံ့ငွေနှင့်စပ်လျဉ်း၍၊ ပြည်ထောင်စုအစိုးရက သတ်မှတ်သော စည်းကမ်းချက်များနှင့်မဆန့်ကျင်စေဘဲ၊ ပြည်နယ်ကောင်စီသည်၊ ပြည်နယ်၏ဘတ်ဂျက်ကို လက်ခံအတည်ပြုနိုင်ရန်အာဏာရှိရမည်။ထိုစည်းကမ်းချက်များအတိုင်း၊ ပြည်နယ် ကောင်စီကကျေနပ်စွာလိုက်နာကြောင်း၊ နိုင်ငံတော်သမတ အားကျေနပ်နိုင်စေရန် ပြည်နယ်၏ဘတ်ဂျက်ကို ပြည်ထောင်စု အစိုးရ၏ ဘတ်ဂျက်တွင် ထည့်သွင်းဖေါ်ပြ ရမည်။

၁၉၄။ ။ဤအခြေခံဥပဒေရှိ ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ၊ ပြည်နယ်ဥက္ကဋ္ဌ၊ ပြည်နယ်ကောင်စီနှင့် ပြည်နယ်အစိုးရအဖွဲ့ဝင်တဦး၏၊ သို့တည်းမဟုတ် အများ၏ အာဏာနှင့် တာဝန်ဝတ်တရားများဆိုင်ရာကိစ္စများ၊ ထို့ပြင်ဥက္ကဋ္ဌ၊ ထိုကောင်စီ၊ ထိုအစိုးရအဖွဲ့ဝင်တို့ အချင်းချင်း ဆက်ဆံရေးကိစ္စများ၊ ထို့ပြင် ထိုဥက္ကဋ္ဌ၊ ထိုကောင်စီ၊ ထိုအစိုးရအဖွဲ့တို့နှင့် ပြည်ထောင်စုအစိုးရ၏ ဆက်ဆံရေး ကိစ္စများပါဝင်သော ပြည်နယ်၏ ဖွဲ့စည်း အုပ်ချုပ်ပုံအခြေခံ ဥပဒေဆိုင်ရာကိစ္စအားလုံးကို တရားဥပဒေဖြင့် ပြဋ္ဌာန်း သတ်မှတ်ရမည်။

၁၉၅။ ။ × × × ×[၁]

## အပိုင်း ၅။ ချင်းဝိသေသတိုင်း။

၁၉၆။ ။နိုင်ငံတော်သမတက သတ်မှတ်သော ချင်းတောင်များခရိုင်နှင့် ရခိုင်တောင်တန်းနယ်များပါဝင်သည့်

---

၁ (၁၉၅၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၆၂။)ဖြင့်ပယ်ဖျက်

ချင်းဝိသေသတိုင်းရှိရမည်။

၁၉၇။ ။ (၁) ပါလီမန်ရှိ ချင်းအမျိုးသားများ၏ ကိုယ်စားလှယ်အမတ်အားလုံးပါဝင်သော ချင်းရေးရာ ကောင်စီတခုကို ဖွဲ့စည်းရမည်။

(၂) ဝန်ကြီးချုပ်သည် ချင်းရေးရာကောင်စီနှင့် ညှိနှိုင်းတိုင်ပင်၍၊ ပါလီမန်ရှိချင်း အမျိုးသားများ၏ ကိုယ်စားလှယ်အမတ်များအနက်အမတ်တဦးဦး၏အမည်ကို တင်သွင်း သောအခါ၊ ထိုသို့အမည်တင်သွင်း ခြင်းခံရသော အမတ်ကို နိုင်ငံတော်သမတသည် "ချင်းရေးရာဝန်ကြီး" ဟုခေါ်တွင်ရမည်ဖြစ်သော ပြည်ထောင်စုအစိုးရ အဖွဲ့ဝင်ဝန်ကြီး တဦးအဖြစ်ခန့်ထားရမည်။

(၃) ပြည်ထောင်စုအစိုးရ၏ အာဏာများကို မထိခိုက်စေဘဲ၊ ချင်းရေးရာဝန်ကြီးသည်၊ အောက်ပါတို့ကို စီမံခန့်ခွဲညွှန်ကြား ကြီးကြပ်အုပ်ချုပ်ရမည်။

(က) ချင်းဝိသေသတိုင်း၏အရပ်ရပ်ဆိုင်ရာစီရင်အုပ်ချုပ်ရေး၊ ထို့ပြင်အထူးအားဖြင့်၊ ထိုဝိသေသတိုင်း တွင် အုပ်ချုပ်ရေးဆိုင်ရာ ရာထမ်းမှုထမ်းများခန့်ထားခြင်း၊ နေရာချခြင်း၊ ရွှေ့ပြောင်းပေးခြင်း၊ ထိုရာထမ်းမှုထမ်းများ စည်းကမ်းသေဝပ်ခြင်း။

(ခ) ချင်းဝိသေသတိုင်းတွင်ပညာသင်ကျောင်းများနှင့်တကွ၊ ယဉ်ကျေးမှုဆိုင်ရာ အဖွဲ့စည်းများနှင့် သက်ဆိုင်သောကိစ္စများ။

(၄) ချင်းရေးရာဝန်ကြီးအား၊ မိမိ၏တာဝန်ဝတ်တရားများကိုဆောင်ရွက်ရာတွင် ချင်းရေးရာ ကောင်စီ က ကူညီရမည်။ အကြံပေးရမည်။

(၅) ပါလီမန်အမတ်အဖြစ်မှရပ်စဲသော ချင်းရေးရာကောင်စီအမတ်တဦးသည်၊ ကောင်စီ၌ လည်း ကောင်စီ အမတ်အဖြစ်မှရပ်စဲသည်ဟု မှတ်ယူရမည်။ သို့ရာတွင် ထိုကောင်စီ အမတ်သည်၊ မိမိအား ဆက်ခံမည်သူကို ရွေးကောက်တင်မြှောက်ပြီးသည့် တိုင်အောင်၊ မိမိတာဝန် ဝတ်တရားများကို ဆက်လက် ဆောင်ရွက်နိုင်သည်။

၁၉၈။ ။ဤအခြေခံဥပဒေရှိပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ၊ ချင်းရေးရာဝန်ကြီးနှင့် ချင်းရေးရာ ကောင်စီတို့၏အာဏာနှင့် တာဝန်ဝတ်တရားများဆိုင်ရာ ကိစ္စအားလုံး ကို၄င်း၊ ထိုဝန်ကြီးနှင့် ထိုကောင်စီတို့၏ ဆက်ဆံရေးဆိုင်ရာ ကိစ္စအားလုံးကို၄င်း၊ ထိုဝန်ကြီး၊ ထိုကောင်စီတို့နှင့် ပြည်နယ်စု အစိုးရ၏ ဆက်ဆံရေး ဆိုင်ရာကိစ္စအားလုံးကို၄င်း တရားဥပဒေဖြင့် ပြဋ္ဌာန်း သတ်မှတ်ရမည်။

## အပိုင်း ၆။ ပြည်နယ်သစ်များ။

၁၉၉။ ။ပါလီမန်သည် ပြည်နယ်သစ်ကလိုက်နာရမည့် စည်းကမ်းသတ်မှတ်ချက်များပါဝင်သော အက်ဥပဒေဖြင့်၊ ပြည်နယ်သစ်တခုကို ပြည်ထောင်စုနိုင်ငံအတွင်းသို့ ဝင်ခွင့်ပြုနိုင်သည်။ ရွေးကောက်တင်မြှောက်နိုင်သည်ဟူသောအချက်လည်း ပါဝင်ရမည်။

၂၀၀။ ။(က) ပြည်ထောင်စုအဖွဲ့ဝင်အသစ် တခု တည်ထောင်ဖွဲ့စည်းခြင်း

(ခ) ပြည်ထောင်စုအဖွဲ့ဝင်တခုခု၏ အကျယ် အဝန်းကိုတိုးချဲ့ခြင်း၊

(ဂ) ပြည်ထောင်စုအဖွဲ့ဝင်တခုခု၏ အကျယ် အဝန်းကို လျှော့ခြင်း၊

(ဃ) ပြည်ထောင်စုအဖွဲ့ဝင်တခုခု၏ နယ်နိမိတ် များကို ပြောင်းလဲခြင်းတို့ကို၊ ထိုသို့နယ်နိမိတ် ပြုပြင်ခြင်း ခံရသောပြည်နယ်တိုင်း၏ ကောင်စီကသဘောတူညီပါက၊ ပါလီမန်သည် အက်ဥပဒေဖြင့်ပြုနိုင်သည်။ထို့ပြင်ထိုကဲ့သို့သောသဘာတူညီချက်ရရှိပါက၊ ပါလီမန်သည် လိုအပ်သည်ဟု၊ သို့တည်းမဟုတ် သင့်လျော်သည်ဟု ထင်မြင် ယူဆသော ထပ်ဖြည့် ပြဋ္ဌာန်းချက်၊ အကြောင်းသင့်ပြဋ္ဌာန်း ချက်နှင့် နှိုင်းညှိပြဋ္ဌာန်းချက် များကိုပြုနိုင်သည်။

# အခန်း(၁၀)

## ခွဲထွက်နိုင်သောအခွင့်အရေး

၂၀၁။ ။ဤအခြေခံဥပဒေ၌သော်၎င်း ပုဒ်မ ၁၉၉ အရ ပါလီမန်ကပြုသောအက်ဥပဒေ၌သော်၎င်း၊ အခြား ပြဋ္ဌာန်းချက်ပြုထားခြင်းမရှိလျှင်၊ အောက်၌ပြဋ္ဌာန်းထားသော စည်းကမ်းချက်များနှင့်အညီ၊ ပြည်ထောင်စုနိုင်ငံမှ ခွဲထွက်နိုင်ရန် ပြည်နယ်တိုင်း၌ အခွင့်အရေးရှိရမည်။

၂၀၂။ ။ဤအခြေခံဥပဒေအာဏာတည်သည့်နေ့မှ ဆယ်နှစ်အတွင်း ခွဲထွက်နိုင်သော အခွင့်အရေး ကို အသုံးမပြုရ။

၂၀၃။ ။(၁) ခွဲထွက်နိုင်သောအခွင့်အရေးကို သုံးစွဲလိုသောပြည်နယ်သည်၊ ခွဲထွက်လိုကြောင်း အဆိုကို မိမိ၏ပြည်နယ်ကောင်စီတွင် တင်သွင်းအတည်ပြုရမည်။ ပြည်နယ်ကောင်စီရှိ အမတ်စုစုပေါင်း အနက် သုံးပုံနှစ်ပုံအောက်မလျော့သောအမတ်များက ထိုအဆိုကို ထောက်ခံ၍မဲပေးခြင်းမပြုလျှင်၊ အတည်ပြုသည်ဟုမမှတ်ယူရ။

(၂) သက်ဆိုင်ရာပြည်နယ်၏ဥက္ကဋ္ဌသည် ပြည်နယ်ကောင်စီ၏ ဆုံးဖြတ်ခြင်းကို နိုင်ငံတော် သမတအား အကြောင်းကြားရမည်။ ထို့ပြင် အတည်ပြုလိုက်သောကောင်စီ၏ သဘာပတိက ဟုတ်မှန်ကြောင်း လက်မှတ်ရေးထိုးသော ဆုံးဖြတ်ချက်မိတတူတစ်စောင်ကို နိုင်ငံတော်သမတထံသို့ ပြည်နယ်ဥက္ကဋ္ဌက တင်ပြရမည်။

၂၀၄။ ။ထိုအခါနိုင်ငံတော်သမ္မတသည်၊ သက်ဆိုင်ရာပြည်နယ်၏ လူထုဆန္ဒပွဲကို ကျင်းပစေရန် အမိန့် ထုတ်ရမည်။ လူထုဆန္ဒပွဲကိုကျင်းပခြင်းမှာ သက်ဆိုင်ရာပြည်နယ်ရှိ ပြည်သူတို့၏ဆန္ဒအမှန်ကို သိနိုင်ရန်ဖြစ်သည်။

၂၀၅။ ။နိုင်ငံတော်သမတသည်၊ လူထုဆန္ဒပွဲကော်မရှင်တစ်ဖွဲ့ကို ခန့်ရမည်။ ထိုအဖွဲ့တွင် ပြည်ထောင်စုနိုင်ငံမှ၎င်း၊ သက်ဆိုင်ရာပြည်နယ်မှ၎င်း ကိုယ်စားလှယ်ဂဏန်းရေအညီအမျှပါဝင်ရမည်။ ထိုအဖွဲ့ သည် လူထုဆန္ဒပွဲကို ကြီးကြပ်စီမံရန်ဖြစ်သည်။

၂၀၆။ ။ဤအခန်းရှိ ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ၊ အဆိုပါခွဲထွက်နိုင်သောအခွင့်အရေး အသုံး ပြုခြင်းနှင့်စပ်လျဉ်းသောကိစ္စအားလုံးကို ဥပဒေဖြင့် စည်းမျဉ်းသတ်မှတ်ရမည်။

## အခန်း(၁၁)

## ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေကိုပြင်ခြင်း

၂၀၇။ ။ ဤအခြေခံဥပဒေရှိ ပြဋ္ဌာန်းချက်တစ်ခုခုကို၊ ပြောင်းခြင်းဖြင့်သော်၎င်း၊ ဖြည့်ထည့်ခြင်း ဖြင့်သော်၎င်း၊ ရုပ်သိမ်းခြင်းဖြင့်သော်၎င်း အောက်၌ဖော်ပြသတ်မှတ်ထားသော နည်းအတိုင်း ပြင်နိုင်သည်။

၂၀၈။ ။ (၁) ဤအခြေခံဥပဒေကို ပြင်ရန်တင်သွင်းသောအဆိုကို ဥပဒေကြမ်းအဖြစ်ဖြင့် တင်သွင်းရမည်။ ထိုဥပဒေကြမ်းကို ``ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေကိုပြင်ရန်ဥပဒေကြမ်း'' ဟူ၍ ဖော်ပြရမည်။

(၂) ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေကို ပြင်ရန်အဆိုတစ်ခုသော်၎င်း၊ အများသော်၎င်း ပါဝင်သောဥပဒေကြမ်းတွင် အခြားအဆိုများမပါရ။

၂၀၉။ ။ (၁) ထိုကဲ့သို့သောဥပဒေကြမ်းကို၊ ပါလီမန်ဆိုင်ရာလွှတ်တော်တစ်ရပ်ရပ်၌ စတင် တင်သွင်းနိုင်သည်။

(၂) ထိုဥပဒေကြမ်းကို ပါလီမန်ဆိုင်ရာလွှတ်တော်အသီးသီးက အတည်ပြုပြီးနောက်၊ လွှတ်တော်နှစ်ရပ်လုံးကပင် တွဲဖက်အစည်းအဝေး၌ စဉ်းစားဆွေးနွေးရမည်။

(၃) လွှတ်တော်နှစ်ရပ်၏လက်ရှိအမတ်များအနက်၊ သုံးပုံနှစ်ပုံအောက်မလျော့သော အမတ်များက တွဲဖက်အစည်းအဝေးတွင် ထောက်ခံ၍မဲပေးမှသာလျှင်၊ ထိုဥပဒေကြမ်းကို လွှတ်တော် နှစ်ရပ်လုံးက အတည်ပြုသည်ဟုမှတ်ယူရမည်။

(၄) (က) တတိယဇယားရှိ ပြည်နယ်ဥပဒေပြုစာရင်းကိုသော်၎င်း

(ခ) စတုတထဇယားရှိ ပြည်နယ်အခွန်တော်စာရင်းကိုသော်၎င်း

(ဂ) ပါလီမန်တွင် ပြည်နယ်အသီးသီးဆိုင်ရာ ကိုယ်စားလှယ်အမတ်ဖြစ်စေရန်၊ လိုအပ်သောအရည်အချင်း ပျက်ယွင်းခြင်းမရှိစေရဟု ပုဒ်မ ၇၄၊ ပုဒ်မခွဲ(၁)ရှိအပိုဒ်(ဃ)အရကြေညာထားသော ပါလီမန် အက်ဥပဒေကိုသော်၎င်း ပြင်လိုသောဥပဒေကြမ်းသည်၊ လွှတ်တော်နှစ်ရပ်၏ တွဲဖက် အစည်းအဝေးသို့ တက်ရောက်မဲပေးသော သက်ဆိုင်ရာပြည်နယ်မှ၊ သို့တည်းမဟုတ် ပြည်နယ် အသီးသီးမှ ကိုယ်စားလှယ်အမတ်များရာကက ထောက်ခံ၍မဲပေးခြင်းမပြုလျှင်၊ လွှတ်တော်နှစ်ရပ် လုံး၏ တွဲဖက်အစည်းအဝေးတွင် အတည်ပြုချက်ကို ရသည်ဟု မမှတ်ယူရ။

(၅)[၁] ဤအခြေခံဥပဒေကချင်းအမျိုးသားများအားပေးအပ်ထားသောအခွင့်အရေးကို ယုတ်လျော့ စေမည့် ဥပဒေကြမ်းသည်၊ တွဲဖက်အစည်းအဝေး သို့ တက်ရောက်မဲပေးသော ကရင်အမျိုးသား ကိုယ်စားလှယ်အမတ်များရာကဖြစ်စေ၊ ချင်းအမျိုးသား ကိုယ်စားလှယ်အမတ်များရာကဖြစ်စေ၊ သက်ဆိုင်ရာရာကထောက်ခံ၍မဲပေးခြင်းမပြုလျှင်၊ လွှတ်တော် နှစ်ရပ်လုံး၏ တွဲဖက်အစည်းအဝေးတွင် အတည်ပြုချက်ကိုရသည်ဟု မမှတ်ယူရ။

---

၁ (၁၉၅၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၆၂။)ဖြင့်ပြင်ဆင်

၂၁၀။ ။ ဤအခန်းရှိ အထက်ကဖော်ပြခဲ့သော ပြဋ္ဌာန်းချက်များနှင့်အညီ၊ ဥပဒေကြမ်းကို အတည်ပြုပြီးသောအခါ၊ ထိုဥပဒေကြမ်းကို နိုင်ငံတော်သမတထံသို့ တင်ပြရမည်။ နိုင်ငံတော်သမတသည်၊ ထိုဥပဒေကြမ်းကို ချက်ချင်းလက်မှတ်ရေးထိုး၍ ထုတ်ပြန်ကြေညာရမည်။

## အခန်း(၁၂)

## ပြည်ထောင်အချင်းချင်းဆက်ဆံရေး

၂၁၁။ ။ ပြည်ထောင်စုမြန်မာနိုင်ငံတော်သည် စစ်မက်ကို နိုင်ငံတော်ဝါဒ၏ လက်နက်သဖွယ် အသုံးမပြု၊ စွန့်ပယ်သည်။ ထို့ပြင်နိုင်ငံခြားနှင့်ဆက်ဆံရာ၌ ပြည်ထောင်အချင်းချင်း ဥပဒေ၏ သဘောတရားများကို ကျင့်စဉ် အဖြစ်ဖြင့် လိုက်နာလက်ခံသည်။

၂၁၂။ ။ ပြည်ထောင်စုမြန်မာနိုင်ငံသည် ပြည်ထောင်အချင်းချင်း တရားမျှတမှုနှင့် နိုင်ငံတကာတို့ စောင့်ရှောက်အပ်သော ကျင့်ဝတ်သိက္ခာတို့ကိုအခြေခံ၍၊ ကမဘာ့ငြိမ်းချမ်းရေးကိုၚင်း၊ နိုင်ငံတကာတို့နှင့် မိတ်ဝတ်မပျက်ပေါင်းဖက်ဆောင်ရွက်ရေးကိုၚင်း ရဖွးရှုမည်ဟူ၍ ခိုင်မြဲသောအဓိဌာန်ကို ပြုသည်။

၂၁၃။ ။ (၁) ပြည်ထောင်စုမြန်မာနိုင်ငံပါဝင်သော ပြည်ထောင်အချင်းချင်း သဘောတူညီချက်တိုင်းကို ပါလီမန်၌ တင်ပြရမည်။

(၂) သဘောတူညီချက်အတိုင်း အထမြောက်အောင်ဆောင်ရွက်ရေးအတွက်၊ ဥပဒေပြုရန် လိုသော သို့တည်းမဟုတ် ဥပဒေပြုခြင်းကို လိုရန်အကြောင်းရှိသော ပြည်ထောင်အချင်းချင်း သဘောတူ ညီချက်ကို ပါလီမန်ကသဘောမတူခဲ့သော်၊ လက်ခံအတည်မပြုရ။

(၃) သဘောတူညီချက်တွင် ပြည်ထောင်စုမြန်မာနိုင်ငံ၏ အခွန်တော်မှ ကုန်ကျစရာများ ပါဝင်နေသော ပြည်ထောင်အချင်းချင်းသဘောတူညီချက်ကို ပြည်သူ့လွှတ်တော်ကသဘောမတူခဲ့သော်၊ လက်ခံအတည်မပြုရ။

ရှင်းလင်းချက်။ ။ဤပုဒ်မသည် လုပ်ငန်းဆောင်တာနည်းနာတို့နှင့်ဆိုင်သော သို့တည်းမဟုတ် စီရင်အုပ်ချုပ်မှုနှင့်ဆိုင်သော အစိုးရအချင်းချင်း သဘောတူညီချက်များနှင့် မသက်ဆိုင်ရ။

၂၁၄။ ။ ပါလီမန်ကဆုံးဖြတ်ပြဋ္ဌာန်းခြင်းမပြုလျှင်၊ မည်သည့်ပြည်ထောင်အချင်းချင်းသဘောတူ ညီချက်မျှ၊ ထိုကဲ့သို့သော သဘောတူညီချက်အနေနှင့်၊ ပြည်ထောင်စုနိုင်ငံတရားဥပဒေ၏ တစ်စိတ် တစ်ဒေသ မဖြစ်ရ။

## အခန်း(၁၃)

## အရပ်ရပ်ဆိုင်ရာပြဋ္ဌာန်းချက်များ

၂၁၅။ ။ နိုင်ငံတော်အလံ၏ပုံမှာ ထောင့်မှန်စတုဂံပုံဖြစ်သည်။ အလံမှာ အနီရောင်ခံဖြစ်၍၊ လက်ဝဲဘက်အထက်ထောင့်၌ အပြာရင့်အခန်းဖွင့်ပြီးလျှင်၊ ထိုအပြာရင့်အခန်းအလယ်တွင် ရောင်ခြည်လက်ငါးခုရှိသော ကြယ်ဖြူကြီးတစ်ပွင့် ထားရှိသည်။ ထိုကြယ်ဖြူကြီး၏ ရောင်ခြည်လက်များအကြားတွင် ရောင်ခြည်လက်ငါးခုစီရှိသော ကြယ်ဖြူငယ်ငါးပွင့်ကို တစ်ပွင့်စီသွင်းရံထားရမည်။ ကြယ်ဖြူကြီးနှင့် တစ်ကွသွင်းရံထားသောကြယ်ငယ်များ၏ ရောင်ခြည်လက်များအနက်၊ တစ်ခုစီသည် အလံ၏ အထက်ဘက်သို့ မက်မက်ညွှန်လျက်တည်စေရမည်။ အလံတစ်ခုလုံး၏အတိုင်းအတာမှာ အလျား ၉ ပေ၊ အနံ ၅ ပေ အပြာရင့်အခန်းမှာ အလျား ၄ ပေ၊ အနံ ၂ ပေ ၆ လက်မ၊ ကြယ်ကြီးအတွက်၊ ထောင့်စွန်းများကို ဆက်၍ဆွဲထားသောစက်ဝိုင်း၏အချင်းမှာ ၁၈ လက်မ၊ ကြယ်ငယ်အတွက် ၉ လက်မ ဖြစ်သည်။ အလံ၏အရွယ်မှာ ကြီးငယ်မဟူ ထိုအချိုးအစားအတိုင်း ကိုက်ညီနိုင်သမျှကိုက်ညီရမည်။

၂၁၆။ ။ မြန်မာဘာသာသည် ရုံးသုံးဘာသာဖြစ်ရမည်။ သို့ရာတွင် အင်္ဂလိပ်ဘာသာကိုလည်း သုံးခွင့်ပြုနိုင်သည်။

၂၁၇။ ။ ဤဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေစာမူ နှစ်ခုထားရှိရမည်။ တစ်ခုမှာ မြန်မာဘာသာစာမူဖြစ်၍ အခြားတစ်ခုမှာ အင်္ဂလိပ်ဘာသာစာမူဖြစ်သည်။ ထိုနှစ်မူတွင် တိုင်းပြည်လွှတ်တော်ဥက္ကဋ္ဌက လက်မှတ်ထိုး၍၊ တရားလွှတ်တော်ချုပ်၏ အတွင်းဝန်ရုံးတွင် မော်ကွန်းတင်ရမည်။ ထိုစာနှစ်မူလုံးကို ဤဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေရှိ ပြဋ္ဌာန်းချက်များအတွက် အပြီးအပြတ်သက်သေအရာ တည်စေရမည်။

၂၁၈။ ။ ပြည်ထောင်စုမြန်မာနိုင်ငံသည် သို့တည်းမဟုတ် ပြည်နယ်တို့သည် ပြည်သူသုံးလုပ်ငန်းဆောင်တာများကို လုပ်ကိုင်စေရန် လက်မှတ်ကို သို့တည်းမဟုတ် လိုင်စင်ကို သို့တည်းမဟုတ် အခြားနည်းဖြင့် အာဏာလွှဲအပ်သော လုပ်ပိုင်ခွင့်ကို–

(က) ပြည်ထောင်စုနိုင်ငံကသော်၎င်း၊ ပြည်နယ်ကသော်၎င်း ဒေသနတရအာဏာပိုင်များကသော်၎င်း ကြီးကြပ်အုပ်ချုပ်သောအဖွဲ့အစည်းများကိုသာ ပေးရမည်။ သို့တည်းမဟုတ်

(ခ) ပြည်ထောင်စုနိုင်ငံသားတို့ကိုသာပေးရမည်။. သို့တည်းမဟုတ်

(ဂ) ပြည်ထောင်စုနိုင်ငံမှသော်၎င်း၊ ပြည်နယ်မှသော်၎င်း၊ ဒေသနတရအာဏာပိုင်မှသော်၎င်း၊ ပြည်ထောင်စုနိုင်ငံသားများထံမှသော်၎င်း ရာခိုင်နှုန်း ၆၀ အောက်မနည်းပါဝင်သော ငွေရင်းရှိ၍၊ ပြည်ထောင်စုနိုင်ငံတွင် အာဏာတည်သော တရားဥပဒေနှင့်အညီ ဖွဲ့စည်းသော ကုမ္ပဏီများကိုသာဖြစ်စေ၊ ထိုကဲ့သို့သော အခြားအဖွဲ့စည်းမျာကိုသာဖြစ်စေ ပေးရမည်။ သို့ရာတွင် ထိုကဲ့သို့သောလက်မှတ်ကို သို့တည်းမဟုတ် လိုင်စင်ကို သို့တည်းမဟုတ် အခြားနည်းဖြင့် အာဏာလွှဲအပ်သော လုပ်ပိုင်ခွင့်ကို၊ ပြည်သူ့အကျိုးအတွက် လိုအပ်သောအခါ၊ ပါလီမန်က ပြင်နိုင်ရမည်၊ သို့တည်းမဟုတ် ပြောင်းနိုင်ရမည်၊ သို့တည်းမဟုတ်

ရုပ်သိမ်းနိုင်ရမည်ဟူသော စည်းကမ်းချက်များအရမှတစ်ပါး၊ မည်သူတစ်ဦးတစ်ယောက်သို့မျှ သို့တည်းမဟုတ် မည်သည့်အဖွဲ့အစည်းသို့မျှ သို့တည်းမဟုတ် မည်သည့်ကုမ္ပဏီသို့မျှ နှစ်ဆယ့်ငါးနှစ်ထက် ကျော်လွန်သောကာလအပိုင်းအခြားအတွက် မပေးရ။

၂၁၉။ ။ သစ်တောမြေနှင့် သတ္တုမြေများ၊ သစ်တောများ၊ ရေ၊ တံငါလုပ်ငန်းအမျိုးမျိုးဆိုင်ရာဒေသများ၊ သတ္တုများ၊ ကျောက်မီးသွေး၊ ရေနံနှင့် အခြားတွင်းထွက်ဆီများ၊ ဓါတ်အားထွက်မည့် ပင်ရင်းအခြေအမြစ်များနှင့် အခြားသဘာဝပင်ရင်းအခြေအမြစ်များကို၊ ပြည်ထောင်စုနိုင်ငံက လုပ်ကိုင်သုံးစွဲ၍တိုးတက်အောင်ပြုရမည်။ သို့ရာတွင် ပြည်ထောင်စုနိုင်ငံ၏ အကျိုးစီးပွားအလို့ငှာ၊ ပါလီမန်၏ အက်ဥပဒေအရ ပြဋ္ဌာန်းထားသော သီးခြားခြွင်းချက်၊ စည်းကမ်းများနှင့် မဆန့်ကျင်လျှင်၊ ပြည်ထောင်စုနိုင်ငံသည် အထက်ပါတို့ကို လုပ်ကိုင်သုံးစွဲနိုင်သော သို့တည်းမဟုတ် တိုးတက်အောင်ပြုနိုင်သော သို့တည်းမဟုတ် အသုံးချနိုင်သော အခွင့်အရေးကို၊ ပြည်ထောင်စုနိုင်ငံသားများအား ပေးနိုင်သည်။ သို့တည်းမဟုတ် ပြည်ထောင်စုနိုင်ငံသားများထံမှ အနည်းဆုံးရာခိုင်နှုန်း ၆၀ မျှ ပါဝင်သည့် ငွေရင်းရှိသော ကုမ္ပဏီများ သို့သော်၎င်း၊ ထိုကဲ့သို့သောအဖွဲ့အစည်းများသို့သော်၎င်း ပေးနိုင်သည်။

ခြွင်းချက်။ ။ထို့အပြင် ပြည်သူ့အကျိုးအတွက် လိုအပ်သောအခါ၊ အထက်ပါအခွင့်အရေးကို ပါလီမန်က ပြင်နိုင်ရမည်၊ သို့တည်းမဟုတ် ပြောင်းနိုင်ရမည်၊ သို့တည်းမဟုတ် ရုပ်သိမ်းနိုင်ရမည်ဟူသော စည်းကမ်းချက်များအရမှတစ်ပါး၊ ထိုအခွင့်အရေးမျိုးကိုမပေးရ။

အထက်ကဖော်ပြခဲ့သော သဘာဝပင်ရင်းအခြေအမြစ်များကို လုပ်ကိုင်သုံးစွဲခြင်း၊ တိုးတက်အောင်ပြုခြင်း၊ အသုံးချခြင်းတို့အတွက် လက်မှတ်ကိုသော်၎င်း၊ လိုင်စင်ကိုသော်၎င်း၊ အခြားနည်းဖြင့် လွှဲအပ်သော လုပ်ပိုင်ခွင့်ကိုသော်၎င်း နှစ်ဆယ့်ငါးနှစ်ထက်ကျော်လွန်သော ကာလအပိုင်းအခြားအတွက် နောင်အခါတွင်မပေးရ။ သို့တည်းမဟုတ် နှစ်ဆယ့်ငါးနှစ်ထက်ကျော်လွန်သော နောက်ထပ်ကာလအပိုင်းအခြားအတွက် အသစ်လဲလှယ်ခွင့်မရှိစေရ။

၂၂၀။ ။ပြည်ထောင်စုနိုင်ငံ၏ အကျိုးစီးပွားအလို့ငှါ၊ ပါလီမန်၏ အက်ဥပဒေကပြဋ္ဌာန်း ထားသော သီးခြားခြွင်းချက် စည်းကမ်းချက်များအရမှတစ်ပါး၊ လုပ်ကိုင်သုံးစွဲစေရန်သော်၎င်း၊ တိုးတက်အောင်ပြုစေရန်သော်၎င်း၊ အသုံးချစေရန်သော်၎င်း မည်သည့် လယ်ယာကိုင်းကျွန်းမြေကိုမျှ၊ ပြည်ထောင်စုနိုင်ငံသားမဟုတ်သောသူများအား ပြည်ထောင်စုနိုင်ငံက၊ မပေးရ။

၂၂၁။ ။ပြည်ထောင်စုနိုင်ငံဝန်ထမ်းများခန့်ထားရေးနှင့် စပ်လျဉ်း၍ ပြည်ထောင်စုနိုင်ငံအစိုးရကို ကူညီရန်၎င်း၊ ရာထမ်းမှုထမ်း ဆိုင်ရာ စည်းကမ်းသေဝပ်မှုကိစ္စများတွင် အကြံပေးရန်၎င်း၊ ပါလီမန်သည်၊ တရားဥပဒေပြဋ္ဌာန်း၍ ရာထူးဝန်အဖွဲ့ကို ထားရှိရမည်။ ထိုရာထူးဝန်အဖွဲ့ကို ဖွဲ့စည်းခြင်း၊ ထိုအဖွဲ့၏ အာဏာနှင့် အလုပ်ဝတ်တရားများ၊ ထို့ပြင် အဖွဲ့ဝင်တို့၏ရာထူးအလုပ်ဆိုင်ရာ စည်းကမ်းချက်များကို၊ ပါလီမန်၏အက်ဥပဒေဖြင့် ပြဋ္ဌာန်းသက်မှတ်ရမည်။

## အဓိပ္ပါယ်ပိုင်းခြားဖော်ပြချက်

၂၂၂။ ။ (၁) ရှေ့နောက်စကားတို့၏အဓိပ္ပါယ်ကို ထောက်ထားရန်မလိုလျှင်၊ ဤအခြေခံ ဥပဒေ၌ပါရှိသော

အောက်ပါစကားရပ်တို့သည် ဖော်ပြထားသောအဓိပ္ပါယ်ကိုဆောင်သည်။ ဆိုလိုရင်းမှာ -

''မြန်မာပြည်''၊ ''မြန်မာနိုင်ငံ''၊ ''မြန်မာနိုင်ငံတော်'' ဟူသော စကားရပ်တို့သည်၊ ၁၉၃၅ ခုနှစ်၊ မြန်မာ နိုင်ငံတော် စီရင်အုပ်ချုပ်မှုဥပဒေ၌ ပါရှိသောအဓိပ္ပါယ်မျိုးကိုဆောင်သည်။

''လက်ရှိတရားဥပဒေ'' ဟူသည်မှာ တရားဥပဒေ၊ တချက်လွှတ်ဥပဒေ၊ အမိန့်၊ စည်းကမ်းဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းဥပဒေတို့ကို ပြုပိုင်သော ဥပဒေပြုအဖွဲ့ကသော်၎င်း၊ အာဏာပိုင်ကသော်၎င်း၊ ပုဂ္ဂိုလ်ကသော်၎င်း၊ ဤအခြေခံဥပဒေအာဏာမတည်မီက ပြည်ထောင်စုမြန်မာနိုင်ငံရှိနယ်မြေများတွင် ပြုခဲ့သောတရားဥပဒေ၊ တချက်လွှတ်ဥပဒေ၊ အမိန့်၊ စည်းကမ်းဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းဥပဒေတို့ကိုဆိုလိုသည်။

''စော်ဘွား'' သို့တည်းမဟုတ် ''စောဖျာ'' ဟူသည်မှာ အငြင်းပွားမှုပေါ်ပေါက်လျှင်၊ နိုင်ငံတော်သမတက သက်ဆိုင်ရာရှိက်ရာခံစည်းကမ်းများနှင့် အညီ အသိအမှတ်ပြုသောပုဂ္ဂိုလ်ကိုဆိုလိုသည်။

''ပြည်ထောင်စုအဖွဲ့ဝင်'' ဟူသည်မှာ - ပုဂ္ဂိုလ်

(က) ပြည်ထောင်စုမြန်မာနိုင်ငံတွင် အဖွဲ့ဝင်တစ်ခုအဖြစ်ဖြင့်၊ ဖွဲ့စည်းပါဝင်သော ပြည်နယ်ကိုသော်၎င်း၊

(ခ) ပြည်နယ်၏ တစ်စိတ်တစ်ဒေသအဖြစ် မဖွဲ့စည်းမပါဝင်သော ပြည်ထောင်စု မြန်မာနိုင်ငံရှိ ကျန်နယ်မြေအားလုံးကိုသော်၎င်း၊ ဆိုလိုသည်။

(၂) အခန်း ၆။ ၇။ ၁၀။ ၁၁။ ၁၃ နှင့် တတိယဇယား၊ စတုတဇယားများရှိ ''ပြည်နယ်'' ဟူသောစကားသည် ဆန့်ကျင်သောရည်ရွယ်ချက် မပေါ်ပေါက်လျှင် ရှမ်းပြည်နယ်ကို၊ သို့တည်းမဟုတ် ကချင်ပြည်နယ်ကို၊ သို့တည်းမဟုတ် ကယားပြည်နယ်ကို သို့တည်းမဟုတ် အခန်း၉ အပိုင်း ၆ အရ ဖွဲ့စည်းသော ပြည်နယ်သစ်ကို ဆိုလိုသည်။

(၃) ဆန့်ကျင်သောရည်ရွယ်ချက်မပေါ်ပေါက်လျှင်၊ မြန်မာနိုင်ငံတော်ယေဘုယျ စကားရပ် အက်ဥပဒေရှိ ပြဋ္ဌာန်းချက်များသည် ဤအခြေခံဥပဒေကို အဓိပ္ပါယ်ကောက်ယူသခြင်း၊ ဤအခြေခံဥပဒေ အာဏာ သက်ရောက်ခြင်းတို့နှင့် သက်ဆိုင်ရမည်။

## အခန်း(၁၄)

## ကူးပြောင်းရေးကာလပြဋ္ဌာန်းချက်များ

၂၂၃။ ။၁၉၃၅ ခုနှစ်၊ မြန်မာနိုင်ငံတော်စီရင်အုပ်ချုပ်မှုအက်ဥပဒေအရဖြစ်စေ အခြားနည်းအရ ဖြစ်စေ၊ ဗြိတိသျှဘုရင်မင်းမြတ် ထိုစဉ် အခါကစိုးပိုင်တော်မူခဲ့သည့် မြန်မာနိုင်ငံအတွင်းရှိ နယ်ပယ်များကို စီရင်အုပ်ချုပ်ခြင်းနှင့်စပ်လျဉ်းသော သို့တည်းမဟုတ် သက်ဆိုင်သော ဗြိတိသျှဘုရင်မင်းမြတ်၌ ယခင်က တည်ရှိခဲ့သော အခွင့်အရေး၊ အခွင့်အာဏာ၊ စီရင်ပိုင်ခွင့်အာဏာ၊ ကိုယ်ပိုင်အခွင့်အာဏာ အားလုံးနှင့် တကွ၊ မြန်မာနိုင်ငံတော်အတွင်း အခြားမည်သည့်နယ်ပယ်များတွင်မဆိုဖြစ်စေ၊ ထိုနယ်ပယ်များနှင့် စပ်လျဉ်း၍ဖြစ်စေ၊ သဘောတူစာချုပ်အရသော်၎င်း၊ ပေးအပ်ခြင်းအရသော်၎င်း၊ ထုံးစံဓလေ့အရ သော်၎င်း၊ လျစ်လျူရှုချက်အရသော်၎င်း၊ အခြားနည်းအရသော်၎င်း၊ ဆောင်ရွက်တော်မူပိုင်သော အခွင့်အရေး၊ အခွင့်အာဏာ၊ စီရင်ပိုင်ခွင့်အာဏာ၊ ကိုယ်ပိုင်အခွင့်အာဏာ အားလုံးတို့ကိုပါ ပြည်ထောင်စု မြန်မာနိုင်ငံကပိုင်ဆိုင်သည်ဟု ကြေညာလိုက်သည်။

ခြွင်းချက်။ ။သို့ရာတွင် ဤအခြေခံဥပဒေအာဏာတည်အံ့ဆဲဆဲကာလ ဗြိတိသျှဘုရင်မင်းမြတ်၌တည်ရှိခဲ့သော၊ ထို့ပြင်ဗြိတိသျှ မြန်မာနိုင်ငံနှင့်စပ်လျဉ်း၍သော်၎င်း၊ ဆောင်ရွက်တော်မူ ပိုင်သော ကိုယ်ပိုင်အခွင့်အာဏာကို၊ ပြည်ထောင်စုနိုင်ငံရှိ မည်သည့်အာဏာပိုင်ကမျှ ကိုယ်ပိုင်အခွင့် အာဏာအနေနှင့် မသုံးစွဲရ။

၂၂၄။ ။ဤအခြေခံဥပဒေအာဏာတည်အံ့ဆဲဆဲကာလက မြန်မာနိုင်ငံနှင့် ကယားနယ်များ၏ စီရင်အုပ်ချုပ်ရေးကိစ္စအလို့ငှါ၊ ဗြိတိသျှဘုရင်မင်းမြတ်၌ သို့တည်းမဟုတ် အခြားအာဏာပိုင်တစ်ခုခု၌ တည်ရှိခဲ့သော အခွင့်အရေးများ၊ ပိုင်ဆိုင်သော ပစ္စည်းများနှင့် တောင်းဆိုရယူခွင့်များသည်၊ ဤအခြေခံ ဥပဒေ အာဏာတည်သည်မှစ၍၊ ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရ၌ တည်ရှိရမည်။ ကယား

အထူးအားဖြင့် သစ်တော်အားလုံး၊ မြေအောက်ရှိသတ္တုနှင့် အခြားပစ္စည်းများအားလုံး၊ ဓါတ်ဖက်ဝင်၊ ဆေးဖက်ဝင် စသောရေများ၊ သဘာဝအင်အားတို့၏ ပင်ရင်းအခြေအမြစ်များ၊ သံလမ်းဖြင့် သယ်ယူပို့ဆောင်ရေးဆိုင်ရာပစ္စည်းများ၊ စာပို့ဆောင်ရေးဆိုင်ရာပစ္စည်းများ၊ ကြေးနန်းနှင့်ဆက်သွယ်ရေးဆိုင်ရာပစ္စည်းများ၊ အသံလွှင့်လုပ်ငန်းဆိုင်ရာပစ္စည်းများသည်၊ ဤအခြေခံဥပဒေအာဏာတည်သည်မှစ၍ ပြည်ထောင်စုနိုင်ငံ၏ပစ္စည်းများဖြစ်ရမည်။

၂၂၅။ ။(၁) ပဋိညာဉ်များနှင့်စပ်လျဉ်း၍သော်၎င်း၊ တာဝန်များနှင့်စပ်လျဉ်း၍သော်၎င်း၊ အကယ်၍ ဤအခြေခံဥပဒေ အာဏာအတည်မဖြစ်ခဲ့သော် မြန်မာနိုင်ငံတော်အစိုးရအား တရားစွဲနိုင်သော အခွင့်အရေးအရ၊ တရားစွဲရန် ပေါ်ပေါက်ခဲ့လျှင် ပြည်ထောင်စုအစိုးရအား တရားစွဲနိုင်သည်။

(၂) ပြည်ထောင်စုမြန်မာနိုင်ငံသည်၊ ပြည်ထောင်စုမြန်မာနိုင်ငံ၏အမည်ဖြင့်တရားစွဲ နိုင်သည်။ ထိုနည်းတူပင် တရားစွဲခြင်းကို ခံနိုင်သည်။

(၃) အမှုသည်အဖြစ်ဖြင့် မြန်မာနိုင်ငံအစိုးရပါဝင်နေသောအမှုများသည်၊ ဤအခြေခံဥပဒေ အာဏာတည် သောနေ့ရက်တွင် မပြီးမပြတ်ဖြစ်နေသေးပါက ထိုအမှုများတွင်

မြန်မာနိုင်ငံအစိုးရအစား၊ ပြည်ထောင်စု မြန်မာနိုင်ငံအစိုးရ ပါဝင်သည်ဟု မှတ်ယူရမည်။

၂၂၆။ ။ (၁) လက်ရှိတရားဥပဒေများသည် ဤအခြေခံဥပဒေနှင့် မညီမညွတ် မဖြစ်သည် အထိရင်း၊ ဤအခြေခံ ဥပဒေနှင့်မဆန့်ကျင်လျှင်ရင်း၊ ထိုလက်ရှိဥပဒေများကိုဖြစ်စေ ဥပဒေပြုပိုင်ခွင့်ရှိသော ဥပဒေပြုအဖွဲ့က သော်ရင်း ထိုကဲ့သို့သောအာဏာပိုင်ကသော်ရင်း မယုတ်သိမ်းသမျှ သို့တည်း မဟုတ် မပြင်သေးသမျှ၊ ဆက်လက်၍ အာဏာတည်စေရမည်။

(၂) ဤအခြေခံဥပဒေရှိ ပြဋ္ဌာန်းချက်ကို လေးစားထောက်ထား၍၊ နိုင်ငံတော်သမတက လိုအပ်သည်ဟု ထင်မြင်သော၊ သင့်တင့်ဆီလျော်သည့် ပြုပြင်ချက်များပါဝင်သော လက်ရှိတရားဥပဒေတစ်ခုခုကို ပါလီမန်ကသော်ရင်း၊ အခွင့်အာဏာရှိသောအခြားအာဏာပိုင်ကသော်ရင်း၊ မရုပ်သိမ်းသမျှ၊ သို့တည်းမဟုတ် မပြင်သေးသမျှ၊ နိုင်ငံတော်သမတ၏အမိန့်တွင် သီးခြားဖော်ပြထားသောနေ့မှစ၍ အကျိုးသက်ရောက်စေရမည်ဟု နိုင်ငံတော်သမတက အမိန့်ထုတ်၍ ပြဋ္ဌာန်းထားသည်။

၂၂၇။ ။ ဤအခြေခံဥပဒေအာဏာတည်အံ့ဆဲဆဲကာလက မြန်မာနိုင်ငံအစိုးရနှင့် သို့တည်းမဟုတ် မြန်မာနိုင်ငံအစိုးရ ကိုယ်စားဗြိတိသျှဘုရင်မင်းမြတ်နှင့် သို့တည်းမဟုတ် ဗြိတိသျှနိုင်ငံရှိဘုရင်မင်းမြတ်၏ အစိုးရနှင့်၊ အခြားနိုင်ငံအကြီးအမှူး သို့တည်းမဟုတ် အစိုးရတို့ ချုပ်ဆိုအတည်ဖြစ်ခဲ့သော စာချုပ်များမှသော်ရင်း၊ သဘောတူညီချက်များမှသော်ရင်း၊ ထွက်ပေါ်လာသောတရားမျှတသည့်တာဝန်များကို၊ အဆိုပါအခြားနိုင်ငံကလည်း ပြည်ထောင်စုမြန်မာနိုင်ငံနှင့် စပ်လျဉ်း၍၊ ထားရှိအပ်သောပဋိညာဉ်များကို တုံ့ပြန်လေးစားပါ က၊ ပြည်ထောင်စုမြန်မာနိုင်ငံကလည်း၊ တုံ့ပြန်လေးစားရမည်။

၂၂၈။ ။ ဤအခြေခံဥပဒေအာဏာတည်သည့်နေ့၌၊ တည်ရှိနေသောတရားရုံးအားလုံးသည် ဤအခြေခံဥပဒေနှင့်အညီ တရားဥပဒေဖြင့်တရားရုံးသစ်များကို မတည်ထောင်သမျှ၊ ဆက်လက်၍ တရားစီရင်ပိုင်ခွင့်အာဏာများကိုသုံးစွဲဆောင်ရွက်ရမည်။ အဆိုပါတရားရုံးများတွင် မပြီးမပြတ်ဖြစ်နေသေးသော တရားမမှုများ၊ ရာဇဝတ်မှုများနှင့် အခွန်တော်မှုများကို၊ ဤအခြေခံဥပဒေမတည်သေးဘိကဲ့သို့ ပြီးပြတ်အောင်စီရင်ရမည်။

၂၂၉။ ။ ဤအခြေခံဥပဒေအာဏာတည်အံ့ဆဲဆဲကာလက၊ မြန်မာနိုင်ငံတော်အစိုးရ လက်အောက် တွင် အမှုထမ်းခဲ့ကြသော ရာထမ်းမှုထမ်းများသည်၊ ပြည်ထောင်စုမြန်မာနိုင်ငံက အခြားပြဋ္ဌာန်းချက်မပြု သမျှ ဆက်လက်အမှုထမ်းရမည်။

၂၃၀။ ။ ကြိုတင်မသိမမြင်နိုင်သော အခက်အခဲများကို ၊ အထူးအားဖြင့်၊ ၁၉၃၅ခုနှစ်၊ မြန်မာနိုင်ငံတော်စီရင်အုပ်ချုပ်မှုအက်ဥပဒေရှိ ပြဋ္ဌာန်းချက်များမှ၊ ဤအခြေခံဥပဒေရှိ ပြဋ္ဌာန်းချက်များသို့ ကူး ပြောင်းရာတွင် ပေါ်ပေါက်လာအပ်သောအခက်အခဲများကို ဖယ်ရှားရန် နိုင်ငံတော်သမတသည်၊ မိမိ၏ အမိန့်တွင် သီးခြားဖော်ပြထားသော ကာလအပိုင်းအခြားအတွက် ပြောင်းခြင်းဖြစ်သော်ရင်း၊ ဖြည့်ထည့်ခြင်းသော်ရင်း၊ ရုပ်သိမ်းခြင်းဖြင့်သော်ရင်း၊ ပြုပြင်ထားသော ပြင်ဆင်ချက်များပါဝင်သည့် ဤအခြေခံ ဥပဒေသည်၊ အကျိုးသက်ရောက်ရမည်ဟု နိုင်ငံတော်သမ္မတက အမိန့်ထုတ်၍ ပြဋ္ဌာန်းနိုင်သည်။ အခန်း ၆ အရ၊ နည်းလမ်းကျနစွာဖွဲ့စည်းသောပါလီမန်၏ ပထမအစည်းအဝေးကျင်းပပြီးသည့်နောက် ဤပုဒ်မအရ

ထိုကဲ့သို့သောအမိန့်ကိုမထုတ်ရ။ တစ်ဆက်တည်းဖြစ်သော အောက်ပုဒ်မရှိ ပြဋ္ဌာန်းချက်များအရ၊ ပါလီမန်ဆိုင်ရာလွှတ်တော်နှစ်ရပ်လုံး၏အာဏာများကိုအသုံးပြုကာ၊ ဤတိုင်းပြည်ပြုလွှတ်တော်က ဆုံးဖြတ်ချက်ချ၍ သဘောတူညီချက်မပေးလျှင်၊ ထိုကဲ့သို့သောအမိန့်ကို မထုတ်ရ။

၂၃၁။ (၁) အခန်း ၆ အရ နည်းလမ်းကျနစွာ ဖွဲ့စည်းသောပါလီမန်၏ ပထမအစည်းအဝေးကို ကျင်းပသည့်တိုင်အောင်၊ ဤတိုင်းပြည်ပြုလွှတ်တော်သည်၊ ပါလီမန်ဆိုင်ရာလွှတ်တော်နှစ်ရပ်ပါလုံး၏ အာဏာအားလုံး ၊ တာဝန်ဝတတရားအားလုံးနှင့် အခွင့်အရေးအားလုံးကို သုံးစွဲဆောင်ရွက်ခံစားရမည်။

(၂) နိုင်ငံတော်ယာယီသမတအဖြစ်ဖြင့်၊ တိုင်းပြည်ပြုလွှတ်တော်က ရွေးကောက်တင်မြှောက်သောပုဂ္ဂိုလ်သည်၊ အခန်း ၅ အရ၊ နိုင်ငံတော်သမ္မတကို နည်းလမ်းကျနစွာ ရွေးကောက်တင်မြှောက်သည့် တိုင်အောင်၊ ပြည်ထောင်မြန်မာနိုင်ငံ၏ နိုင်ငံတော်ယာယီသမတဖြစ်ရမည်။ထို့ပြင် ထိုနိုင်ငံတော်ယာယီ သမတသည်၊ ဤအခြေခံဥပဒေက နိုင်ငံတော်သမတအားအပ်နှင်းထားသော အာဏာအားလုံးနှင့် တာဝန်ဝတတရားအားလုံးကို သုံးစွဲဆောင်ရွက်ရမည်။

နိုင်ငံတော်ယာယီသမတအဖြစ်ဖြင့်၊ ထမ်းရွက်သောကာလအပိုင်းအခြားကို၊ ပုဒ်မ ၄၈ ရှိ ပုဒ်မခွဲ (၂) အရ၊ ရာထူးသက်တမ်းကို တွက်စစ်ရာတွင် ထည့်သွင်း၍မရေတွက်ရ။

(၃) ပြည်ထောင်စုယာယီအစိုးရ၏ ဝန်ကြီးချုပ်နှင့် အခြားဝန်ကြီးများအဖြစ်ဖြင့် တိုင်းပြည်ပြုလွှတ်တော်က ရွေးကောက်တင်မြှောက်ခြင်းခံရသော နိုင်ငံတော်သမတက၊ ပုဒ်မ ၅၆ ရှိ ပြဋ္ဌာန်းချက်များ နှင့်အညီ အခြားပုဂ္ဂိုလ်များကို ခန့်ထားသည့်တိုင်အောင်၊ ပြည်ထောင်စုယာယီအစိုးရ၏ ဝန်ကြီးချုပ်နှင့် အခြား ဝန်ကြီးများဖြစ်ရမည်။

၂၃၂။ (၁) အခန်း ၆ အရ နည်းလမ်းကျနစွာဖွဲ့စည်းသော ပါလီမန်၏ ပထမအစည်းအဝေးကို ကျင်းပသည့်တိုင်အောင် –

(က) တိုင်းပြည်ပြုလွှတ်တော်ရှိ ပဒေသရာဇ် ရှမ်းပြည်နယ်စုဆိုင်ရာ ကိုယ်စားလှယ်အမတ်အားလုံးဖြင့်၊ ရှမ်းပြည်နယ်ယာယီကောင်စီကိုဖွဲ့စည်းရမည်။

(ခ) တိုင်းပြည်ပြုလွှတ်တော်ရှိ မြစ်ကြီးနားနှင့် ဗန်းမော်ခရိုင်များဆိုင်ရာ ကိုယ်စားလှယ်အမတ်အားလုံးဖြင့်၊ ကချင်ပြည်နယ်၊ ယာယီကောင်စီကို ဖွဲ့စည်းရမည်။

(ဂ) တိုင်းပြည်ပြုလွှတ်တော်ရှိကရင်အမျိုးသားဆိုင်ရာကိုယ်စားလှယ်အမတ်အားလုံးဖြင့်၊ ကရင်ရေးရာ ယာယီကောင်စီကိုဖွဲ့စည်းရမည်။

(ဃ) တိုင်းပြည်ပြုလွှတ်တော်ရှိ ကယားနယ်များဆိုင်ရာကိုယ်စားလှယ်အမတ်အားလုံးဖြင့်၎င်း၊ နိုင်ငံတော် ယာယီသမတက ကယားပြည်နယ်မှရွေးချယ်ခန့်ထားသော နှစ်ဦးထက်မပိုသည့်အခြားပုဂ္ဂိုလ် များဖြင့်၎င်း၊ ကယားပြည်နယ်ယာယီ ကောင်စီကိုဖွဲ့စည်းရမည်။

(င) တိုင်းပြည်ပြုလွှတ်တော်ရှိ၊ ချင်းတောင်များခရိုင်နှင့် ရခိုင်တောင်တန်း၊ နယ်ပယ်ဆိုင်ရာ

ကိုယ်စားလှယ် အမတ်အားလုံးဖြင့်၊ ချင်းရေးရာယာယီကောင်စီကိုဖွဲ့စည်းရမည်။

(၂) ဆိုခဲ့သော ယာယီကောင်စီအသီးသီးသည်၊ အခန်း ၉ အရ ဖွဲ့စည်းသော သက်ဆိုင်ရာ ကောင်စီအသီးသီး၏ အာဏာအားလုံးနှင့်တာဝန်ဝတ်တရားအားလုံးကို သုံးစွဲဆောင်ရွက်ရမည်။

၂၃၃။ ။ ဤအခြေခံဥပဒေအရ ကျင်းပသော ပဌမအမတ်ရွေးကောက်ပွဲကို၊ ဤအခြေခံဥပဒေ အာဏာတည်သည့်နေ့ရက်မှစ၍ ၁၈ လ အတွင်းတွင် ကျင်းပရမည်။

၂၃၄။ ။ ဤအခြေခံဥပဒေသည် နိုင်ငံတော်ယာယီသမတက ထုတ်ပြန်ကြေညာသောနေ့တွင်၊ အာဏာတည်ရမည်။ ထိုနေ့သည် မြန်မာသကကရာဇ်၊ ၁၃၁၀ခုနှစ်၊ ကဆုန်လဆန်း ၈ ရက်နေ့ (ခရဇ်တော်သက္ကရာဇ်၊ ၁၉၄၈ ခုနှစ်၊ ဧပြီလ ၁၅ ရက်နေ့) အောက် နောက်မကျစေရ။

နောက်ဆက်တွဲ ''၁''

သမတအိမ်တော်ရန်ကုန်မြို့။
၁၃၀၉ ခု၊ ပြာသိုလဆုတ် ၉ ရက်။
(၁၉၄၈ ခု ဇန္နဝါရီ ၄ ရက်)

## သမတအိမ်တော်
## ၏
## ကျေညာချက်။

ပြည်ထောင်စုမြန်မာနိုင်ငံ၏ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေအရ နိုင်ငံတော်ယာယီသမတက ထိုဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံသည် သက္ကရာဇ် ၁၃၀၉ ခုနှစ်၊ ပြာသိုလဆန်း၉ရက် (၁၉၄၈ ခု၊ ဇန္နဝါရီလ ၄ ရက်)နေ့မှစ၍ အာဏာတည်ရမည်ဟု အောက်ပါအတိုင်းထိုနေ့တွင်ကျေညာသည်။

''ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေအရ ပြည်ထောင်စုမြန်မာနိုင်ငံ၏ နိုင်ငံတော်ယာယီသမတဖြစ် သောကျွန်ုပ်စဝ်ရွှေသိုက်သည်၊ တိုင်းပြည်ပြုလွှတ်တော်က ဥပဒေအဖြစ်အတည်ပြုလိုက်သော ပြည်ထောင်စုမြန်မာနိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေအား၊ ၁၃၀၉ ခု၊ ပြာသိုလဆုတ် ၉ ရက် (၁၉၄၈ ခု၊ဇန္နာဝါရီလ ၄ ရက်) နေ့တွင်အာဏာတည်ရမည်ဟူ၍ ကျေညာလိုက်သည်။

စဝ်ရွှေသိုက်။''

အမိန့်အရ၊

ရွှေဘော်၊
နိုင်ငံတော်သမတအတွင်းဝန်

## ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေတွင်ပြင်ဆင်ချက်များပြုလုပ်ခဲ့ခြင်းဖြစ်စဉ်အကျဉ်းချုပ်*

၁။ ။ဥက္ကဋ္ဌကမှားယွင်းသည့်စာလုံးများနှင့် ဥပဒေ(မူ)ကိုမထိခိုက်သည့်အမှားအယွင်းများကို ပြင်ဆင်ခြင်း။ ။ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေကိုတိုင်းပြည်ပြုလွှတ်တော်က ၁၉၄၇ ခုနှစ်၊ စက်တင်ဘာလ ၂၄ ရက်နေ့တွင်အတည်ပြုခဲ့ပါသည်။ ဤကဲ့သို့အတည်ပြုခဲ့ပြီးနောက်၊ အခြေခံဥပဒေတွင် ပုံနှိပ်မှားယွင်းခြင်း နှင့် မူကိုမထိခိုက်သည့်အမှားများကို ပြင်ဆင်နိုင်ရန်၊ တိုင်းပြည်ပြုလွှတ်တော်က အဆိုပါ ၁၉၄၇ ခုနှစ်၊ စက်တင်ဘာလ ၂၄ ရက်နေ့တွင်ပင် အောက်ပါအတိုင်းအဆိုတရပ်ကိုပြဋ္ဌာန်းအတည်ပြုပြီး၊ ဥက္ကဋ္ဌအား ပြင်ဆင်နိုင်ခွင့်အာဏာပေးအပ်ခဲ့ပါသည်။

### အဆို

" လွှတ်တော်ဥက္ကဋ္ဌအားပုံနှိပ်ထားသည့် ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေစာအုပ်တွင် မှားယွင်းသည့် စာလုံးများနှင့် ဥပဒေ(မူ)ကိုမထိခိုက်သည့်အမှားများကို ပြင်ဆင်နိုင်ခွင့်အတွက်အာဏာပေးသည်။"

ဤကဲ့သို့အာဏာပေးအပ်ချက်အရ ဥက္ကဋ္ဌက ၁၉၄၇ ခုနှစ်၊ ဒီဇင်ဘာလအတွင်းက -

(၁) ပုဒ်မ ၆၄၊ ပုဒ်မခွဲ(၁)၊ မြန်မာစာမူတတိယစာကြောင်းတွင် " မစွမ်းဆောင်နိုင်သောအခါ၊ထိုအခါတမျိုးမျိုးတွင်" ဟူသောစာပိုဒ်အစား၊ "မစွမ်းမဆောင်နိုင်သောအခါမည်သည့် အခါ၌မဆို မြန်မာနိုင်ငံတော်သမတရာထူးလစ်လပ်သောအခါ၊ ထိုအခါတမျိုးမျိုးတွင်" ဟူသောစာပိုဒ်ကိုထည့်သွင်း၍၎င်း၊

(၂) ပုဒ်မ ၆၅၊ အင်္ဂလိပ်စာမူ ဒုတိယစာကြောင်းတွင် " Union Parliament " ဟူသောစကားရပ်အစား၊ " Parliament" ဟူသော စကားရပ်ကိုထည့်သွင်း၍၎င်း၊

(၃) ပုဒ်မ ၇၅၊ အင်္ဂလိပ်စာမူပဉ္စမစာကြောင်းတွင် " requirements " ဟူသော စကားရပ်အစား၊"the requirements" ဟူသော စကားရပ်ကိုထည့်သွင်း၍၎င်း၊

(၄) ပုဒ်မ ၉၂၊ အပိုဒ်ခွဲ(၁)၊ မြန်မာစာမူဒုတိယအပိုဒ်ရှိတတိယစာကြောင်းတွင် "ပြည်ထောင်စုပါလီမန်" ဟူသောစကားရပ်အစား၊ "ပါလီမန်" ဟူသောစကားရပ်ကိုထည့်သွင်း၍၎င်း၊

(၅) ပုဒ်မ ၁၁၄၊ မြန်မာစာမူပဉ္စမစာကြောင်းအစတွင် " မြန်မာနိုင်ငံတော်သမတသည်" ဟူသော စကားရပ်ကိုပယ်ဖျက်၍၎င်း၊

(၆) ပုဒ်မ ၁၆၄၊ ပုဒ်မခွဲ (၁) အဆုံးတွင် " သို့တည်းမဟုတ် တင်သွင်းစေရမည်။" ဟူသောစကားရပ်ကို ဖြည့်သွင်း၍၎င်း၊

(၇) ပုဒ်မ ၁၇၇၊ အပိုဒ်ခွဲ(၁) မြန်မာစာမူအဆုံးတွင် "သို့တည်းမဟုတ်တင်သွင်းစေရမည်။" ဟူသော စကားရပ်ကိုဖြည့်သွင်း၍၎င်း၊

(၈) ပုဒ်မ ၁၈၆၊ အပိုဒ်ခွဲ(၂) မြန်မာစာမူနောက်ဆုံးစာကြောင်းတွင် " လွှတ်တော်၏" ဟူသော စကားရပ် အစား၊ " လွှတ်တော်ချုပ်၏" ဟူသောစကားရက်ကို၎င်း၊ ထိုပုဒ်ရှိအပိုဒ်ခွဲ (၃)ဒုတိယစာကြောင်းတွင် "တရားလွှတ်တော်က" ဟူသောစကားရပ်အစား၊ "တရားလွှတ်တော်ချုပ်က" ဟူသောစကားရပ်ကိုထည့်သွင်း၍၎င်း၊

(၉) ပုဒ်မ ၁၉၃၊ အပိုဒ် (၁) မြန်မာစာမူအဆုံးတွင် "သို့တည်းမဟုတ် တင်သွင်းစေရမည်။"ဟူသောစကားရပ်ကို ဖြည့်သွင်း၍၎င်း၊

(၁၀) ပုဒ်မ ၂၂၆၊ ပုဒ်မခွဲ(၂) အင်္ဂလိပ်စာမူ စာကြောင်းရေ ၄တွင်၊ "Union Parliament" ဟူသောစကားရပ်အစား၊

---

* ၁၉၅၉ ခုနှစ်တွင် ပုံနှိပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်ပါလီမန်၊ ပြည်သူ့လွှတ်တော်အမတ်များ လက်စွဲစာအုပ်တွင်ပါရှိသော ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ၌ပြင်ဆင်ချက်များ ပြုလုပ်ခဲ့ခြင်းနှင့်စပ်လျဉ်းသည့် ဖော်ပြချက်များဖြစ်ပါသည်။

"Parliament" ဟူသောစကားရပ်ကိုထည့်သွင်း၍ငင်း ပြင်ဆင်ချက်များကို ပြုလုပ်ခဲ့ပါသည်။

၂။ ။တိုင်းပြည်ပြုလွှတ်တော်က ဥက္ကဋ္ဌ၏ပြင်ဆင်နိုင်ခွင့်အာဏာအတွင်းအကျုံးမဝင်သည့်ပြင်ဆင်ချက်များ ပြုလုပ်ခြင်း။ ။နိုင်ငံတော်စာရင်းစစ်ချုပ်၊ နိုင်ငံတော်တရားဝန်ကြီးချုပ်နှင့် တရားလွှတ်တော်ချုပ် တရားဝန်ကြီးများနှင့် တရားလွှတ်တော်တရားဝန်ကြီးများခန့်ထားခြင်းနှင့်ပတ်သက်သည့် ပုဒ်မ ၁၂၉၊ ပုဒ်မ၁၄၀၊ ပုဒ်မခွဲ (၁)နှင့်ပုဒ်မ ၁၄၀၊ ပုဒ်မခွဲ(၂)၊ အင်္ဂလိပ်စာမူနှင့် မြန်မာစာမူကို ၁၉၄၈ ခုနှစ်၊ ဇန်နဝါရီ ၃ ရက်နေ့တွင် ကျင်းပသော အစည်းအဝေး၌၊ တိုင်းပြည်ပြုလွှတ်တော်က အဆိုတင်သွင်းဆုံးဖြတ်အတည်ပြုခြင်းဖြင့် အောက်ပါအတိုင်းပြင်ဆင်ခဲ့ပါသည်။

(၁) ပုဒ်မ ၁၂၉တွင်၊ မြန်မာစာမူ၌ ''ဝန်ကြီးချုပ်နှင့်ညှိနှိုင်းတိုင်ပင်ပြီးလျှင်'' ဟူသောစကားရပ်ကိုငင်း၊ အင်္ဂလိပ်စာမူ၌ '' in consultation with the Prime Minister and ''ဟူသော စကားရပ်ကိုငင်းပယ်ဖျက်သည်။

(၂) ပုဒ်မ ၁၄၀၊ ပုဒ်မခွဲ (၁)တွင် မြန်မာစာမူပဉ္စမစာကြောင်း၌၊ ''နိုင်ငံတော်အစိုးရဝန်ကြီးချုပ်နှင့် ညှိနှိုင်းတိုင်ပင်ပြီးလျှင်'' ဟူသောစကားရပ်ကိုငင်း၊ အင်္ဂလိပ်စာမူ တတိယစာကြောင်း၌ ''in consultation with the Prime Minister and '' ဟူသော စကားရပ်ကိုငင်း ပယ်ဖျက်သည်။

(၃) ပုဒ်မ ၁၄၀၊ ပုဒ်မခွဲ(၂) တွင်၊ မြန်မာစာမူ ပဉ္စမစာကြောင်း၌ ''နိုင်ငံတောတရားဝန်ကြီးချုပ်၊ နိုင်ငံတော်အစိုးရဝန်ကြီးချုပ်တို့နှင့် ညှိနှိုင်းတိုင်ပင်ပြီးလျှင်'' ဟူသောစကားရပ်ကို ငင်း၊ အင်္ဂလိပ်စာမူ စတုတ္ထစာကြောင်း၌ '' in consultation with the Chief Justice of the Union and the Prime Minister and '' ဟူသော စကားရပ်ကိုငင်းပယ်ဖျက်သည်။

၃။ ။အခြေခံဥပဒေပုဒ်မ ၂၃၀အရ၊ ပြင်ဆင်ချက်များပြုလုပ်ခြင်း။ အခြေခံဥပဒေအာဏာတည်သည့် ၁၉၄၈ ခုနှစ်၊ ဇန်နဝါရီလ ၄ ရက်နေ့နောက်ပိုင်းတွင် အခြေခံဥပဒေပုဒ်မ ၂၃၀ အရ အပ်နှင်းထားသည့် အာဏာများအရ အခြေခံဥပဒေတွင် ပြင်ဆင်ချက်များကို ၄ ကြိမ်တိုင်တိုင်ပြုလုပ်ပါသည်။

ပုဒ်မ ၂၃၀ အရ၊ ပဌမပြင်ဆင်ချက်မှာ -

၁၉၄၉ ခုနှစ်၊ ဇွန်လ ၁၀ ရက်နေ့တွင်ကျင်းပသော တိုင်းပြည်ပြုလွှတ်တော် (ပါလီမန်)အစည်းအဝေး၌ ဆုံးဖြတ်ချက်ချ၍ သဘောတူညီချက်ပေးသဖြင့်၊ နိုင်ငံတော်သမ္မတက ၁၉၄၉ ခုနှစ်၊ ဇွန်လ ၂၅ ရက်နေ့ ထုတ်မြန်မာနိုင်ငံတော်ပြန်တမ်းအပိုင်း ၁ တွင် '' ၁၉၄၉ ခုနှစ်၊ ပြည်ထောင်စုမြန်မာနိုင်ငံ( အခြေခံဥပဒေအရ၊ ပဌမအကြိမ် အမတ်ရွေးကောက်ပွဲဆိုင်ရာ) အကူးအပြောင်းကာလပြဋ္ဌာန်းချက်အမိန့်''ကိုထုတ်ပြန်၍ ပုဒ်မ ၂၃၃ တွင် ''၁၈'' အစား ''၂၈'' ဟုပြင်ဆင်ခဲ့ပါသည်။

ပုဒ်မ ၂၃၀ အရ၊ ဒုတိယပြင်ဆင်ချက်မှာ -

၁၉၅၀ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၆ ရက်နေ့တွင်ကျင်းပသော အစည်းအဝေး၌ တိုင်းပြည်ပြုလွှတ်တော် (ပါလီမန်)က ဆုံးဖြတ်ချက်ချ၍ သဘောတူညီချက်ပေးသဖြင့်၊ နိုင်ငံတော်သမ္မတက ၁၉၅၀ ခုနှစ်၊ဖေဖော်ဝါရီလ ၂၃ရက် ရက်နေ့တွင်ထုတ်မြန်မာနိုင်ငံတော် အထူးအမိန့် ပြန်တမ်းတွင်'' ၁၉၅၀ခုနှစ်ပြည်ထောင်စုမြန်မာနိုင်ငံ (အခြေခံ ဥပဒေအရ၊ ပဌမအကြိမ် အမတ် ရွေးကောက်ပွဲဆိုင်ရာ)အကူးအပြောင်းကာလပြဋ္ဌာန်းချက်အမိန့်'' ကိုထုတ်ပြန်၍ ပုဒ်မ ၂၃၃ တွင် ''၂၈''အစား ''၄၀'' ဟုပြင်ဆင်ခဲ့ပါသည်။

ပုဒ်မ ၂၃၀ အရ ၊ တတိယပြင်ဆင်ချက်မှာ -

၁၉၅၁ ခုနှစ်၊ မတ်လ ၁၅ ရက်နေ့တွင်ကျင်းပသော အစည်းအဝေး၌ တိုင်းပြည်ပြုလွှတ်တော် (ပါလီမန်) က ဆုံးဖြတ်ချက်ချ၍ သဘောတူညီချက်ပေးသဖြင့်၊ နိုင်ငံတော်သမ္မတက ၁၉၅၁ ခုနှစ်၊ မတ်လ ၃၁ရက်နေ့ထုတ် မြန်မာနိုင်ငံတော်ပြန်တမ်း အပိုင်း၁ တွင် ''၁၉၅၁ ခုနှစ်၊ ပြည်ထောင်စုမြန်မာနိုင်ငံ (အခြေခံဥပဒေအရ၊ ပဌမအကြိမ်အမတ်ရွေးကောက်ပွဲဆိုင်ရာ) အကူးအပြောင်းကာလ ပြဋ္ဌာန်းချက်အမိန့်'' ကို ထုတ်ပြန်၍

ပုဒ်မ၂၃၃ တွင် ``၄၀`` အစား၊ ``၄၈`` ဟု ပြင်ဆင်ခဲ့ပါသည်။

ပုဒ်မ ၂၃၀ အရ၊ စတုတ္ထပြင်ဆင်ချက်မှာ -

၁၉၅၁ ခုနှစ်၊ မတ်လ ၁၉ ရက်နေ့တွင် ကျင်းပသော အစည်းအဝေး၌ တိုင်းပြည်ပြုလွှတ်တော် (ပါလီမန်) ကုံးဖြတ်ချက်ချ၍ သဘောတူညီချက်ပေးသဖြင့်၊ နိုင်ငံတော်သမ္မတက ၁၉၅၁ ခုနှစ်၊ မတ်လ ၂၄ရက်နေ့ထုတ် မြန်မာနိုင်ငံတော်ပြန်တမ်း အပိုင်း၁ တွင် ``၁၉၅၁ခုနှစ်၊ ပြည်ထောင်စုမြန်မာနိုင်ငံ (အခြေခံဥပဒေအရ၊ ပဌမအကြိမ်အမတ်ရွေးကောက်ပွဲဆိုင်ရာ) အကူးအပြောင်းကာလပြဌာန်းချက်အမိန့် (မိတ္တူကိုပူးတွဲထားပါသည်)ကို ထုတ်ပြန်၍၊ ပုဒ်မ ၈၄၊ ပုဒ်မခွဲ (၁)နှင့်၊ ပုဒ်မ ၈၄၊ ပုဒ်မခွဲ (၂) တို့တွင် ခြွင်းချက်တရပ်စီအသီးသီးထည့်သွင်းပြင်ဆင်ခဲ့ ပါသည်။

အထက်ဖော်ပြပါပြင်ဆင်ချက်များမှာ အခြေခံဥပဒေအခန်း၆ အရ၊ နည်းလမ်းကျနစွာ ဖွဲ့စည်းသော ပါလီမန်၏ ပဌမအကြိမ် အစည်းအဝေးကျင်းပပြီးသည့် အချိန်အထိအာဏာတည်ပါသည်။ (အခန်း ၆ အရ၊ နည်းလမ်းကျနစွာ ဖွဲ့စည်းသော ပါလီမန်ပြည်သူ့လွှတ်တော်၏ ပဌမအစည်းအဝေးကို ၁၉၅၂ ခုနှစ်၊ မတ်လ ၃ ရက်နေ့တွင် ကျင်းပပါသည်။

၄။ ။<u>အခြေခံဥပဒေအခန်း ၁၁ အရ၊ ပြင်ဆင်ချက်များပြုလုပ်ခြင်း။</u> ။ အခြေခံဥပဒေအခန်း ၁၁ အရ၊ အခြေခံဥပဒေကို ၃ ကြိမ်ပြင်ဆင်ခဲ့ပါသည်။ ၎င်းတို့မှာ ကရင်ပြည်နယ်ပေးသည့် ၁၉၅၁ ခုနှစ်၊ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံ ဥပဒေ (ပြင်ဆင်ချက်) အက်ဥပဒေ (၁၉၅၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၆၂)၊ ပါလီမန်အမတ်မဟုတ်သော်လည်း အစိုးရ အဖွဲ့ဝင်ဝန်ကြီးတစ်ဦးအား ၆လ ကာလအထိ အစိုးရအဖွဲ့ဝင်ဝန်ကြီးအဖြစ်ခွင့်ပြုသည့် အခြေခံဥပဒေပုဒ်မ ၁၁၆ ကို ယာယီရုပ်သိမ်းသည့် ၁၉၅၉ ခုနှစ်၊ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ (ပြင်ဆင်ချက်) အက်ဥပဒေ (၁၉၅၉ ခုနှစ်၊ အက်ဥပဒေ အမှတ်၄)၊ ရှမ်းစော်ဘွားများနှင့်ကယားစောဖျာများနှင့်ပတ်သက်၍ အခြေခံဥပဒေပုဒ်မ ၁၅၄ (၂) နှင့် ၁၈၃ (၁) တို့ကို ပယ်ဖျက်သည့် ၁၉၅၉ ခုနှစ်၊ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ (ဒုတိယပြင်ဆင်ချက်) အက်ဥပဒေ (၁၉၅၉ ခုနှစ်၊ အက်ဥပဒေ အမှတ် ၁၀ ) တို့ဖြစ်ပါသည်။

၅။ ။အထက်တွင်ဖော်ပြခဲ့သည့်အတိုင်း အခြေခံဥပဒေကို ၃ ကြိမ် ပြင်ဆင်ခဲ့ပြီးနောက် ၁၉၆၁ ခုနှစ်တွင် ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေကို အောက်ပါပြင်ဆင်ချက်အက်ဥပဒေများဖြင့် ၄ ကြိမ်ပြင်ဆင်ခဲ့ပါသည် -

(က) ၁၉၆၁ ခုနှစ် ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ (ပြင်ဆင်ချက်) အက်ဥပဒေ / (၁၉၆၁ ခုနှစ် အက်ဥပဒေ အမှတ် ၃)၊

(ခ) ၁၉၆၁ ခုနှစ် ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ (ဒုတိယပြင်ဆင်ချက်) အက်ဥပဒေ (၁၉၆၁ ခုနှစ်အက်ဥပဒေအမှတ် ၇)၊

(ဂ) ၁၉၆၁ ခုနှစ် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေ(တတိယပြင်ဆင်ချက်) အက်ဥပဒေ (၁၉၆၁ ခုနှစ်အက်ဥပဒေအမှတ် ၁၇)၊

(ဃ) ၁၉၆၁ ခုနှစ် ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ (စတုတ္ထပြင်ဆင်ချက်) အက်ဥပဒေ (၁၉၆၁ ခုနှစ်အက်ဥပဒေအမှတ် ၂၀)။

နောက်ဆက်တွဲ ''၃''

**သမတအိမ်တော်**

သမ္မတအိမ်တော်၊ ရန်ကုန်မြို့။
၁၃၁၁ ခု၊ နယုန်လဆုတ် ၈ ရက်။
(၁၉၄၉ ခု၊ဇွန်လ ၁၈ ရက်။)

## ၁၉၄၉ ခုနှစ်၊ ပြည်ထောင်စုမြန်မာနိုင်ငံ (အခြေခံဥပဒေအရ၊ ပဌမအကြိမ် အမတ်ရွေးကောက်ပွဲ ဆိုင်ရာ) အကူးအပြောင်း ကာလ ပြဋ္ဌာန်းချက်အမိန့်။

ကြိုတင်မသိမြင်နိုင်သောအခက်အခဲများသည်၊ အထူးအားဖြင့် ၁၉၃၅ ခုနှစ်၊ မြန်မာနိုင်ငံတော် စီရင်အုပ်ချုပ်မှု အက်ဥပဒေရှိ ပြဋ္ဌာန်းချက်များမှ (ဤမှ နောင်အဘို့တွင် အခြေခံဥပဒေဟု ရည်ညွှန်းသည့်) မြန်မာနိုင်ငံ၏ ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံဥပဒေပြဋ္ဌာန်းချက်များသို့ ကူးပြောင်းရာတွင် ပေါ်ပေါက်လာသည်တကြောင်း၊

ထိုကဲ့သို့သော အခက်အခဲများကို ဖယ်ရှားရန်အလို့ငှာ၊ နိုင်ငံတော်သမ္မတက မိမိ၏အမိန့်တွင် သီးခြားဖော် ပြထားသော ကာလအပိုင်းအခြားအတွက် မိမိသင့်လျော်သည်ထင်မြင်သည့်အတိုင်း၊ သို့တည်းမဟုတ် လိုအပ်သည် ထင်မြင်သည့်အတိုင်း ပြုလုပ်ထားသော ပြင်ဆင်ချက်များပါဝင်သည့် အခြေခံဥပဒေသည်၊ အကျိုးသက်ရောက်ရမည်ဟု အမိန့်ထုတ်၍ ပြဋ္ဌာန်းနိုင်သည့် အာဏာများကို အခြေခံဥပဒေပုဒ်မ ၂၃၀ အရ၊ မိမိအားအပ်နှင်းထားသည်လည်း တကြောင်း၊

တိုင်းပြည်ပြုလွှတ်တော်က ရွေးကောက်တင်မြှောက်သည့် ယာယီသမ္မတသည်၊ အခြေခံဥပဒေပုဒ်မ ၂၃၁၊ ပုဒ်မခွဲ (၂) အရ၊ အခြေခံဥပဒေက၊ နိုင်ငံတော်သမ္မတအား အပ်နှင်းထားသော အာဏာအားလုံးနှင့် တာဝန်ဝတ္တရားအားလုံးကို သုံးစွဲဆောင်ရွက်နိုင်သည်လည်းတကြောင်း၊

တိုင်းပြည်ပြုလွှတ်တော်က အခြေခံဥဒေပုဒ်မ ၂၃၁ (၁) အရ၊ ပါလီမန်ဆိုင်ရာလွှတ်တော်နှစ်ရပ်လုံး၏ အာဏာ များကို အသုံးပြုကာ ဆုံးဖြတ်ချက်ချ၍၊ဤအမိန့်စာကြမ်းကိုသဘောတူညီချက် ပေးပြီးသည်လည်းတကြောင်း၊

ထိုအကြောင်းများကြောင့်၊ ယာယီသမ္မတသည်၊ အဆိုပါအာဏာများနှင့်တကွ ဤကိစ္စအတွက် ဆောင်ရွက်နိုင်ရန် အပ်နှင်းထားသော အခြားအာဏာအားလုံးကို သုံးစွဲလျက်၊ အောက်ပါအတိုင်း အမိန့်ထုတ်၍ ပြဋ္ဌာန်းလိုက်သည်။

၁။ ။ဤအမိန့်ကို ၁၉၄၉ခုနှစ်၊ ပြည်ထောင်စု မြန်မာနိုင်ငံ( အခြေခံဥပဒေအရ၊ ပဌမအကြိမ်အမတ် ရွေးကောက်ပွဲဆိုင်ရာ) အကူးအပြောင်းကာလပြဋ္ဌာန်းချက်အမိန့်ဟုခေါ်ရမည်။

၂။ ။ဤအမိန့်သည် အခြေခံဥပဒေပုဒ်မ ၂၃၄ အရ၊ ၎င်းအခြေခံဥပဒေစတင်အာဏာတည်သည့်နေ့မှစ၍၊၁၉၅၀ ပြည့်နှစ်၊ ဇူလိုင်လ ၅ ရက်နေ့အထိ၊ အာဏာတည်ရမည်။

၃။ ။အခြေခံဥပဒေပုဒ်မ ၂၃၃ တွင်ပါရှိသည့် ''၁၈'' ဆိုသော ဂဏန်းအစား ''၂၈'' ဆိုသော ဂဏန်းကို ထည့်သွင်း ရမည်။

စဝ်ရွှေသိုက်၊
နိုင်ငံတော် ယာယီသမ္မတ၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရန်ကုန်မြို့၊ ၁၃၁၁ ခု၊ နယုန်လဆုတ် ၈ ရက်။
(၁၉၄၉ ခု၊ ဇွန်လ ၁၈ ရက်။)

အမိန့်အရ၊

ရွှေဘော်၊
နိုင်ငံတော်သမ္မတ အတွင်းဝန်။

နောက်ဆက်တွဲ ''၄''

## သမ္မတအိမ်တော်

သမ္မတအိမ်တော်၊ ရန်ကုန်မြို့။
၁၃၁၁ ခု၊ တပေါင်းလဆန်း ၇ ရက်။
(၁၉၅၀ ခု၊ ဖေဖော်ဝါရီလ ၂၂ ရက်။)

## ၁၉၅၀ ခုနှစ်၊ ပြည်ထောင်စုမြန်မာနိုင်ငံ (အခြေခံဥပဒေအရ ပဌမအကြိမ် အမတ် ရွေးကောက်ပွဲဆိုင်ရာ) အကူးအပြောင်း ကာလ ပြဌာန်းချက်အမိန့်။

ကြိုတင်မသိမမြင်နိုင်သော အခက်အခဲများသည်၊ အထူးအားဖြင့်၊ ၁၉၃၅ ခုနှစ်၊ မြန်မာနိုင်ငံတော် စီရင်အုပ်ချုပ်မှု အက်ဥပဒေရှိ ပြဌာန်းချက်များမှ (ဤမှ နောက်အဘို့တွင် အခြေခံ ဥပဒေဟု ရည်ညွှန်းသည့်) မြန်မာနိုင်ငံ၏ ဖွဲ့စည်း အုပ်ချုပ်ပုံအခြေခံဥပဒေ ပြဌာန်းချက်များသို့ ကူးပြောင်းရာတွင် ပေါ်ပေါက်လာသည်တကြောင်း၊

ထိုကဲ့သို့သော အခက်အခဲများကို ဖယ်ရှားရန်အလို့ငှါ၊ နိုင်ငံတော်သမ္မတက၊ မိမိ၏ အမိန့်တွင်သီးခြား ဖော်ပြထားသော ကာလအပိုင်းအခြားအတွက် မိမိသင့်လျော်သည်ထင်မြင်သည့်အတိုင်း၊ သို့တည်းမဟုတ် လိုအပ်သည် ထင်မြင်သည့်အတိုင်းပြုလုပ်ထားသောပြင်ဆင်ချက်များပါဝင်သည့်အခြေခံဥပဒေသည်၊အကျိုးသက်ရောက်ရမည်ဟု အမိန့်ထုတ်၍ပြဌာန်းနိုင်သည့် အာဏာများကို၊ အခြေခံဥပဒေပုဒ်မ ၂၃၀ အရ၊ မိမိအား အပ်နှင်းထားသည်လည်း တကြောင်း၊

တိုင်းပြည်ပြုလွှတ်တော်က ရွေးကောက်တင်မြှောက်သည့် ယာယီသမ္မတသည်၊ အခြေခံဥပဒေပုဒ်မ ၂၃၁၊ ပုဒ်မခွဲ (၂) အရ၊ အခြေခံဥပဒေက နိုင်ငံတော်သမ္မတအား အပ်နှင်းထားသော အာဏာအားလုံးနှင့် တာဝန်ဝတ်တရားအားလုံးကို သုံးစွဲဆောင်ရွက်နိုင်သည်လည်းတကြောင်း၊

တိုင်းပြည်ပြုလွှတ်တော်က၊ အခြေခံဥပဒေပုဒ်မ ၂၃၁ (၁) အရ၊ ပါလီမန်ဆိုင်ရာလွှတ်တော် နှစ်ရပ်လုံး၏ အာဏာများကို အသုံးပြုကာ၊ ဆုံးဖြတ်ချက်ချ၍ ဤအမိန့်စာကြမ်းကိုသဘောတူညီချက် ပေးပြီးသည်လည်းတကြောင်း၊

ထိုအကြောင်းများကြောင့်၊ ယာယီသမ္မတသည်၊ အဆိုပါအာဏာများနှင့်တကွ ဤကိစ္စအတွက် ဆောင်ရွက်နိုင်ရန် အပ်နှင်းထားသော အခြားအာဏာအားလုံးကို သုံးစွဲလျက်အောက်ပါအတိုင်း အမိန့်ထုတ်၍ ပြဌာန်းလိုက်သည်။

၁။ ။ဤအမိန့်ကို၊ ၁၉၅၀ ခုနှစ်၊ ပြည်ထောင်စု မြန်မာနိုင်ငံ (အခြေခံဥပဒေအရ ပဌမအကြိမ် အမတ်ရွေးကောက်ပွဲဆိုင်ရာ) အကူးအပြောင်းကာလ ပြဌာန်းချက် အမိန့်ဟုခေါ်ရမည်။

၂။ ။ဤအမိန့်သည်၊ အခြေခံဥပဒေပုဒ်မ ၂၃၄ အရရင်းအခြေခံဥပဒေစတင်အာဏာတည်သည့်နေ့မှစ၍၊ ၁၉၅၁ ခုနှစ်၊ ဇူလိုင်လ ၅ ရက်နေ့အထိ အာဏာတည်ရမည်။

၃။ ။အခြေခံဥပဒေပုဒ်မ ၂၃၃ တွင်ပါရှိသည့် ၁၉၄၉ ခုနှစ်၊ ပြည်ထောင်စုမြန်မာနိုင်ငံ (အခြေခံဥပဒေအရ၊ ပဌမအကြိမ် အမတ်ရွေးကောက်ပွဲဆိုင်ရာ) အကူးအပြောင်းကာလ ပြဌာန်းချက်အမိန့်အရထည့်သွင်းသော ဂဏန်း ''၂၈'' အစား''၄၀'' ဆိုသောဂဏာန်းကိုထည့်သွင်းရမည်။

စပ်ရွှေသိုက်၊
နိုင်ငံတော် ယာယီသမ္မတ၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရန်ကုန်မြို့၊ ၁၃၁၁ခု၊ တပေါင်းလဆန်း ၇ ရက်။
(၁၉၅၀ ခု၊ ဖေဖော်ဝါရီလ ၂၂ ရက်။)

အမိန့်အရ

ရွှေဘော်၊
နိုင်ငံတော်သမ္မတအတွင်းဝန်

နောက်ဆက်တွဲ ``၅``

## သမ္မတအိမ်တော်

သမ္မတအိမ်တော်၊ ရန်ကုန်မြို့။
၁၃၁၂ ခု၊ တပေါင်းလဆန်း ၁၄ ရက်။
(၁၉၅၁ ခု၊ မတ်လ ၂၁ ရက်)။

## ၁၉၅၁ ခုနှစ်၊ ပြည်ထောင်စုမြန်မာနိုင်ငံ (အခြေခံဥပဒေအရ၊ ပဌမအကြိမ် အမတ်ရွေးကောက်ပွဲဆိုင်ရာ) အကူးအပြောင်း ကာလပြဋ္ဌာန်းချက်အမိန့်။

[၁၉၅၁ ခုနှစ်၊ အမိန့်အမှတ် ၁။]

ကြိုတင်မသိမမြင်နိုင်သော အခက်အခဲများသည်၊ အထူးအားဖြင့်၊ ၁၉၃၅ ခုနှစ်၊ မြန်မာနိုင်ငံတော် စီရင်အုပ်ချုပ်မှု အက်ဥပဒေရှိပြဋ္ဌာန်းချက်များမှ (ဤမှ နောင်အဘို့တွင် အခြေခံဥပဒေဟု ရည်ညွှန်းသည့်) မြန်မာနိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေပြဋ္ဌာန်းချက်များကို ကူးပြောင်းရာတွင် ပေါ်ပေါက်လာသည်တကြောင်း၊

ထိုကဲ့သို့သော အခက်အခဲများကို ဖယ်ရှားရန်အလို့ငှါ၊ နိုင်ငံတော်သမ္မတက မိမိ၏ အမိန့်တွင် သီးခြားဖော်ပြ ထားသောကာလအပိုင်းအခြားအတွက်၊ မိမိသင့်လျော်သည်ထင်မြင်သည့်အတိုင်း၊ သို့တည်းမဟုတ် လိုအပ်သည်ထင်မြင် သည့်အတိုင်းပြုလုပ်ထားသော ပြင်ဆင်ချက်များပါဝင်သည့် အခြေခံဥပဒေသည်၊ အကျိုးသက်ရောက်ရမည်ဟု အမိန့်ထုတ် ၍ပြဋ္ဌာန်းနိုင်သည့် အာဏာများကို၊အခြေခံဥပဒေပုဒ်မ ၂၃၀ အရ၊ မိမိအားအပ်နှင်းထားသည်လည်းတကြောင်း

တိုင်းပြည်ပြုလွှတ်တော်က ရွေးကောက်တင်မြှောက်သည့် ယာယီသမ္မတသည်၊ အခြေခံဥပဒေပုဒ်မ ၂၃၁၊ပုဒ်မခွဲ (၂) အရ၊ အခြေခံဥပဒေက နိုင်ငံတော်သမ္မတအား အပ်နှင်းထားသော အာဏာအားလုံးနှင့် တာဝန်ဝတ္တရားအားလုံးကို သုံးစွဲဆောင်ရွက်နိုင်သည်လည်းတကြောင်း၊

တိုင်းပြည်ပြုလွှတ်တော်က၊ အခြေခံဥပဒေပုဒ်မ ၂၃၁ (၁) အရ၊ ပါလီမန်ဆိုင်ရာလွှတ်တော်နှစ်ရပ်လုံး၏ အာဏာများကို အသုံးပြုကာ ဆုံးဖြတ်ချက်ချ၍ ဤအမိန့်စာကြမ်းကို သဘောတူညီချက်ပေးပြီးသည်လည်းတကြောင်း၊

ထိုအကြောင်းများကြောင့်၊ ယာယီသမ္မတသည်၊ အဆိုပါအာဏာများနှင့်တကွ ဤကိစ္စအတွက် ဆောင်ရွက်နိုင်ရန် အပ်နှင်းထားသော အခြားအာဏာအားလုံးကို သုံးစွဲလျက်၊ အောက်ပါအတိုင်းအမိန့်ထုတ်၍ ပြဋ္ဌာန်းလိုက်သည်။

၁။ ။ဤအမိန့်ကို၊၁၉၅၁ ခုနှစ်၊ ပြည်ထောင်စုမြန်မာနိုင်ငံ (အခြေခံဥပဒေအရ၊ ပဌမအကြိမ် အမတ် ရွေးကောက်ပွဲဆိုင်ရာ) အကူးအပြောင်းကာလ ပြဋ္ဌာန်းချက်အမိန့်ဟုခေါ်ရမည်။

၂။ ။ဤအမိန့်သည်၊ အခြေခံဥပဒေပုဒ်မ ၂၃၄ အရ၊ ၎င်းအခြေခံဥပဒေစတင်အာဏာတည်သည့် နေ့မှစ၍ ၁၉၅၂ ခုနှစ်၊ မတ်လ ၅ ရက်နေ့အထိ အာဏာတည်ရမည်။

၃။ ။အခြေခံဥပဒေ ပုဒ်မ ၂၃၃ တွင်ပါရှိသည့် ၁၉၅၀ ခုနှစ်၊ ပြည်ထောင်စုမြန်မာနိုင်ငံ (အခြေခံဥပဒေအရ ပဌမအကြိမ်အမတ်ရွေးကောက်ပွဲဆိုင်ရာ) အကူးအပြောင်းကာလ ပြဋ္ဌာန်းချက်အမိန့်အရ ထည့်သွင်းသော ဂဏန်း ``၄၀`` အစား ``၄၈`` ဆိုသောဂဏန်းကိုထည့်သွင်းရမည်။

စဝ်ရွှေသိုက်၊
နိုင်ငံတော်ယာယီသမ္မတ၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရန်ကုန်မြို့၊ ၁၃၁၂ခု၊ တပေါင်းလဆန်း ၁၄ ရက်။
(၁၉၅၁ ခု၊ မတ်လ ၂၁ ရက်။)

အမိန့်အရ၊
ခင်မောင်ဖြူ၊
နိုင်ငံတော်သမ္မတအတွင်းဝန်။

နောက်ဆက်တွဲ ``၆``
သမ္မတအိမ်တော်၊ ရန်ကုန်မြို့။
၁၃၁၂ ခု၊ တပေါင်းလပြည့်ကျော် ၂ ရက်။
(၁၉၅၁ ခု၊ မတ်လ ၂၄ ရက်။)

## ၁၉၅၁ ခုနှစ်၊ ပြည်ထောင်စုမြန်မာနိုင်ငံ (အခြေခံဥပဒေအရ၊ ပဌမအကြိမ် အမတ်ရွေးကောက်ပွဲဆိုင်ရာ) အကူးအပြောင်း ကာလဒုတိယပြဋ္ဌာန်းချက်အမိန့်။

[၁၉၅၁ ခုနှစ်၊ အမိန့်အမှတ် ၂။]

ကြိုတင်မသိမမြင်နိုင်သောအခက်အခဲများသည်၊ အထူးအားဖြင့်၊ ၁၉၃၅ ခုနှစ်၊ မြန်မာနိုင်ငံတော် စီရင်အုပ်ချုပ်မှုအက်ဥပဒေရှိ ပြဋ္ဌာန်းချက်များမှ (ဤမှ နောက်အဘို့တွင် အခြေခံဥပဒေဟုရည်ညွှန်းသည့်) မြန်မာနိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေပြဋ္ဌာန်းချက်များကို ကူးပြောင်းရာတွင် ပေါ်ပေါက်လာသည်တကြောင်း၊

ထိုကဲ့သို့သောအခက်အခဲများကို ဖယ်ရှားရန်လို့ငှါ နိုင်ငံတော်သမ္မတက၊ မိမိ၏ အမိန့်တွင်သီးခြားဖော်ပြထားသောကာလအပိုင်းအခြားအတွက်၊ မိမိသင့်လျော်သည်ထင်မြင်သည့်အတိုင်း၊ သို့တည်းမဟုတ် လိုအပ်သည်ထင်မြင်သည့်အတိုင်း ပြုလုပ်ထားသော ပြင်ဆင်ချက်များပါဝင်သည့် အခြေခံဥပဒေသည်၊ အကျိုးသက်ရောက်ရမည်ဟု အမိန့်ထုတ်၍ ပြဋ္ဌာန်းနိုင်သည့်အာဏာများကို၊အခြေခံဥပဒေပုဒ်မ ၂၃၀ အရ၊ မိမိအား အပ်နှင်းထားသည်လည်းတကြောင်း၊

တိုင်းပြည်ပြုလွှတ်တော်က ရွေးကောက်တင်မြှောက်သည့် ယာယီသမ္မတသည်၊ အခြေခံဥပဒေပုဒ်မ ၂၃၁၊ ပုဒ်မခွဲ (၂) အရ၊ အခြေခံဥပဒေက၊ နိုင်ငံတော်သမ္မတအားအပ်နှင်းထားသော အာဏာအားလုံးနှင့် တာဝန်ဝတ္တရားအားလုံးကို သုံးစွဲဆောင်ရွက်နိုင်သည်လည်းတကြောင်း၊

တိုင်းပြည်ပြုလွှတ်တော်က အခြေခံဥပဒေပုဒ်မ ၂၃၁ (၁)အရ၊ ပါလီမန်ဆိုင်ရာလွှတ်တော်နှစ်ရပ်စလုံး၏ အာဏာများကို အသုံးပြုကာ ဆုံးဖြတ်ချက်ချ၍၊ ဤအမိန့်စာကြမ်းကို သဘောတူညီချက်ပေးပြီးသည်လည်းတကြောင်း၊

ထိုအကြောင်းများကြောင့်ယာယီသမ္မတသည်၊ အဆိုပါအာဏာများနှင့်တကွဤကိစ္စအတွက်ဆောင်ရွက်နိုင်ရန် အပ်နှင်းထားသော အခြားအာဏာအားလုံးကို သုံးစွဲလျက်၊ အောက်ပါအတိုင်းအမိန့်ထုတ်၍ ပြဋ္ဌာန်းလိုက်သည်။

၁။ ။ဤအမိန့်ကို၊ ၁၉၅၁ ခုနှစ်၊ ပြည်ထောင်စုမြန်မာနိုင်ငံ (အခြေခံဥပဒေအရ၊ ပဌမအကြိမ်အမတ် ရွေးကောက်ပွဲဆိုင်ရာ) အကူးအပြောင်းကာလဒုတိယပြဋ္ဌာန်းချက်အမိန့်ဟုခေါ်ရမည်။

၂။ ။ဤအမိန့်သည်၊ အခြေခံဥပဒေပုဒ်မ ၂၃၄ အရ၊ဌင်းအခြေခံဥပဒေစတင် အာဏာတည်သည့်နေ့မှစ၍ ဖွဲ့စည်းအုပ်ချုပ်ပုံဥပဒေအခန်း ၆ အရ၊ နည်းလမ်းကျနစွာဖွဲ့စည်းသောပါလီမန်၏ပဌမအစည်းအဝေးကို ကျင်းပသည့်နေ့အထိအာဏာတည်ရမည်။

၃။ ။ဤအမိန့်အလို့ငှါ အောက်ပါအပိုဒ်ကို အခြေခံဥပဒေပုဒ်မ ၈၄၊ ပုဒ်မခွဲ(၁)၏ **ခြွင်းချက်** ဖြစ်သည်ဟုမှတ်ယူရမည်။
``သို့ရာတွင်မဲဆန္ဒပေးရန်နောက်ဆုံးချိန်းဆိုသောနေ့သည်၊ ၁၉၅၂ ခုနှစ်၊ ဇန္နဝါရီလ ၄ ရက်နေ့ မတိုင်မီ ဖြစ်လျှင်၊ ပဌမအကြိမ်ကျင်းပသောရွေးကောက်ပွဲတွင် မဲဆန္ဒပေးခြင်းကို၊ ပြည်ထောင်စုနိုင်ငံ တဝှမ်းလုံး၌ တနေ့တည်းတွင် ပြုလုပ်စေရန်မလို။``

၄။ ။ဤအမိန့်အလို့ငှါ၊ အောက်ပါအပိုဒ်ကို အခြေခံဥပဒေပုဒ်မ ၈၄၊ ပုဒ်မခွဲ (၂)၏ **ခြွင်းချက်** ဖြစ်သည်ဟုမှတ်ယူရမည်။
``သို့ရာတွင် အခြေခံဥပဒေအခန်း ၆ အရ၊ နည်းလမ်းကျနစွာ ဖွဲ့စည်းသော ပဌမပါလီမန်ဆိုင်ရာ ပြည်သူ့လွှတ်တော်

အစည်းအဝေးကို၊ ပုဒ်မ ၈၄၊ ပုဒ်မခွဲ (၁)၏ ခြွင်းချက်အရ၊ ချိန်းဆိုသောနောက်ဆုံးမဲဆန္ဒပေးရန် နေ့မှစ၍ ရက်ပေါင်း ခြောက်ဆယ်အတွင်း ကျင်းပရမည်။''

စဝ်ရွှေသိုက်၊
နိုင်ငံတော်သမတ၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရန်ကုန်မြို့၊ ၁၃၁၂ ခု၊ တပေါင်းလပြည့်ကျော် ၂ ရက်။
(၁၉၅၁ ခု၊ မတ်လ ၂၄ ရက်။)

အမိန့်အရ၊

ခင်မောင်ဖြူ၊
နိုင်ငံတော်သမတအတွင်းဝန်၊

နောက်ဆက်တွဲ " ၇ "

# ၁၉၅၁ ခုနှစ်၊ ဖွဲ့စည်းပုံအုပ်ချုပ်ပုံအခြေခံဥပဒေ ပြင်ဆင်ချက် အက်ဥပဒေ။

(၁၉၅၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၆၂။)

ပြည်ထောင်စုမြန်မာနိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေကိုပြင်ရန် အက်ဥပဒေ။

အောက်ပါအတိုင်း အက်ဥပဒေအဖြစ် ပြဋ္ဌာန်းလိုက်သည်။

၁။ ။ (၁) ဤအက်ဥပဒေကို၊ ၁၉၅၁ ခုနှစ်၊ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေပြင်ဆင်ချက် အက်ဥပဒေဟု ခေါ်ရမည်။

(၂) ဤအက်ဥပဒေ၏ ပုဒ်မ ၃ နှင့် ၇ မှတစ်ပါး၊ အခြားပုဒ်မအားလုံးသည်၊ ဤအက်ဥပဒေကို ထုတ်ပြန်သောနေ့၌ စတင်အာဏာ တည်ရမည်။ အဆိုပါပုဒ်မ ၃ နှင့် ၇ သည်၊ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေပုဒ်မ ၂၃၃ အရ ပဌမအမတ်ရွေးကောက်ပွဲကျင်းပပြီးလျှင် ဖွဲ့စည်းသောပါလီမန်ကို ဖျက်သိမ်းသောနေ့၌ စတင်အာဏာတည်ရမည်။

၂။ ။ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေပုဒ်မ ၈ တွင် " ပုဒ်မ ၁၈၀ " ဆိုသည့်စကားရပ်အစား " ပုဒ်မ ၁၈၀ နှင့် ၁၈၁ " ဆိုသည့်စကားရပ်ကို ထည့်သွင်းရမည်။

၃။ ။ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေပုဒ်မ ၈၃ ပုဒ်မခွဲ(၁)တွင် နောက်ဆုံးဝါကျကို ပယ်ဖျက်ရမည်။

၄။ ။ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေပုဒ်မ ၁၈၀ နှင့် ၁၈၁အစား အောက်ပါပြဋ္ဌာန်းချက်များကို ထည့်သွင်းရမည်။

" ၁၈၀ ။ ။ (၁) သံလွင်ခရိုင်ဟု ယခင်ကခေါ်တွင်ခဲ့သောနယ်မြေကို ပြည်ထောင်စု မြန်မာနိုင်ငံအတွင်းတွင်၊ ပြည်ထောင်စုအဖွဲ့ဝင်တစ်ခုအဖြစ် ဖြင့် ဖွဲ့စည်းရမည်။ ထိုပြည်ထောင်စုအဖွဲ့ဝင်ကို ဤမှနောင် အဘို့တွင် "ကရင်ပြည်နယ်" ဟု ခေါ်တွင်စေရမည်။ ပါလီမန် ၏အက်ဥပဒေဖြင့် သတ်မှတ်သော ကရင်အမျိုးသားများ နေထိုင်ကြသည့် သံလွင်ခရိုင်၏ ဆက်စပ်ဒေသများသည် လည်း ထိုပြည်နယ်တွင် ပါဝင်ရမည်။

(၂) ပါလီမန်၏ ကရင်ပြည်နယ်ဆိုင်ရာ ကိုယ်စားလှယ်အမတ် အားလုံးပါဝင်သည့် ကရင်ပြည်နယ် ကောင်စီကို ဖွဲ့စည်းရမည်။

(၃) ပါလီမန်အမတ်အဖြစ်မှရပ်စဲသော ပြည်နယ်ကောင်စီအမတ် သည် ကောင်စီ၌ လည်း ကောင်စီအမတ်အဖြစ်မှ ရပ်စဲသည်ဟု မှတ်ယူရမည်။ သို့ရာတွင် ထိုကောင်စီအမတ်သည်၊ မိမိအား ဆက်ခံမည့်သူကို ရွေးကောက်တင်မြှောက်ပြီးသည့်တိုင်အောင် မိမိ၏တာဝန်ဝတ္တရားများကို ဆက်လျှက်ဆောင်ရွက်နိုင်သည်။

(၄) ပြည်နယ်ကောင်စီသည် မိမိကိုယ်တိုင် ဥပဒေပြုပိုင်ခွင့်မရှိသော ကိစ္စနှင့်သက်ဆိုင်သည့် ဥပဒေများကိုပြုပေးရန်၊ ပါလီမန်သို့ ထောက်ခံချက်တင်သွင်းနိုင်သည်။

(၅) ပြည်နယ်ကောင်စီသည် ဥပဒေကြမ်းတစ်ခုကို အတည်ပြုပြီးသော အခါ၊ ထိုဥပဒေကြမ်းကို လက်မှတ်ထိုး၍ ထုတ်ပြန်ကျေညာပေးရန် နိုင်ငံတော်သမ္မတထံသို့ တင်သွင်းရမည်။ နိုင်ငံတော် သမ္မတသည်၊ အဆိုပါဥပဒေကြမ်းနှင့်စပ်လျဉ်း၍ ပုဒ်မခွဲ(၆)အရ၊ တရားလွှတ်တော်ချုပ်၏ ဆုံးဖြတ်ချက်ကို မေးမြန်းတောင်းဆို ခြင်းမပြုလျှင် ထိုဥပဒေကြမ်းကို တင်သွင်းသည်မှစ၍ တစ်လ အတွင်းတွင် လက်မှတ်ထိုးရမည်။

(၆) နိုင်ငံတော်သမ္မတထံသို့ ပုဒ်မခွဲ(၅)အရ တင်သွင်းသောဥပဒေကြမ်းသည်

သို့တည်းမဟုတ်ဥပဒေကြမ်း၏တစ်စိတ်တစ်ဒေသ သည်၊အခြေခံဥပဒေနှင့်ဆန့်ကျင်သည် မဆန့်ကျင်သည်ဟူသော ပြဿနာကိုဆုံးဖြတ်ပေးရန်နိုင်ငံတော်သမ္မတသည် မိမိ၏ သဘောအတိုင်း တရားလွှတ်တော်ချုပ်သို့ ထိုဥပဒေကြမ်းကို လွှဲအပ်နိုင်သည်။

(၇) လွှတ်တော်ချုပ်တရားဝန်ကြီးသုံးဦးအောက် မနည်းပါဝင်သောခုံတော်သည်၊ လွှဲအပ်သောပြဿနာကိုစဉ်းစားရမည်။ လွှဲအပ်သောပြဿနာကို သင့်မြတ်လျော်ကန်သည်ဟု ထင်မြင်သည့် အတိုင်း၊ ကြားနာစစ်ဆေးစဉ်းစားပြီးသောအခါ ထိုပြဿနာ နှင့်စပ်လျဉ်း၍ လွှဲအပ်ပြီးသည့်နောက် ရက်ပေါင်း ၃၀ အောက် နောက်မကျစေဘဲ၊ မိမိတို့၏ဆုံးဖြတ်ချက်ကို လျင်မြန်နိုင်သမျှ လျင်မြန်စွာ တရားရုံးတွင် အထင်အရှား ကျေညာရမည်။ ပုဒ်မခွဲ(၆)၏ ကိစ္စများအလို့ငှာ၊ တရားဝန်ကြီးများရာ၏ ဆုံးဖြတ်ချက်သည် တရားလွှတ်တော်ချုပ်၏ ဆုံးဖြတ်ချက် ဖြစ်ရမည်။

(၈) ပုဒ်မခွဲ(၆)အရ တရားလွှတ်တော်ချုပ်သို့ လွှဲအပ်သောဥပဒေ ကြမ်းရှိ ပြဋ္ဌာန်း ချက်သည်၊ အခြေခံဥပဒေနှင့် ဆန့်ကျင်သည်ဟု တရားလွှတ်တော်ချုပ်က ဆုံးဖြတ်သော ကိစ္စတိုင်း၌နိုင်ငံတော် သမ္မတသည်၊ ထိုဥပဒေကြမ်းကို ပြန်လည်စဉ်းစားဆွေးနွေး စေရန် ပြည်နယ်ကောင်စီသို့ ပြန်ပို့ရမည်၊ ပြည်နယ်ကောင်စီက လိုအပ်သောပြင်ဆင်ချက်များကိုမပြုလျှင်၊ နိုင်ငံတော်သမ္မတ သည်၊ ထိုဥပဒေကြမ်းကို လက်မှတ်မထိုးဟု ငြင်းဆိုရမည်။

(၉) ထိုသို့ငြင်းဆိုဘွယ်မရှိလျှင်၊ နိုင်ငံတော်သမ္မတသည် တရား လွှတ်တော်ချုပ်က အဆုံးအဖြတ်ကို ထုတ်ဖော်ကျေညာပြီး သည့်နောက်၊ လျင်မြန်နိုင်သမျှ လျင်မြန်စွာ ထိုဥပဒေကြမ်းကို လက်မှတ်ထိုး၍ အက်ဥပဒေဖြစ်လာကြောင်း ထုတ်ပြန် ကျေညာရမည်။

(၁၀) ပုဒ်မခွဲ(၅)အရ တင်သွင်းသောဥပဒေကြမ်းကို တရားလွှတ်တော်ချုပ်က မလွှဲမအပ်ဘဲနှင့်ဖြစ်စေ၊ လွှဲအပ်ပြီးမှဖြစ်စေ၊ နိုင်ငံတော် သမ္မတက လက်မှတ်ထိုးပြီးခဲ့လျှင် ပြည်နယ်ကောင်စီက ပြုပိုင်ခွင့်မရှိဟူသော အကြောင်းပြချက်ဖြင့် ထိုဥပဒေကြမ်းရှိ ပြဋ္ဌာန်းချက်သည် မခိုင်လုံဟု ငြင်းဆိုခြင်းမပြုရ။

(၁၁) နိုင်ငံတော်သမ္မတ လက်မှတ်ထိုးသော ပြည်နယ်ကောင်စီ အက်ဥပဒေစာမူတိုင်းကို တရား လွှတ်တော်ချုပ်၏ အတွင်းဝန်ရုံး၌ မော်ကွန်းတင်ရမည်။ မိတ္တူတိုင်းကိုလည်း၊ ကရင်ပြည်နယ် ဝန်ကြီးရုံး၌ မော်ကွန်းတင်ရမည်။

(၁၂) ကရင်ပြည်နယ်ဥက္ကဋ္ဌသည်၊ အခါကာလအားလျော်စွာ ပြည်နယ် ကောင်စီကို ဆင့်ခေါ်နိုင်သည်၊ ရုပ်သိမ်းနိုင်သည်။ သို့ရာတွင် ပြည်နယ်ကောင်စီ၏ညီလာခံကို နှစ်စဉ်တစ်နှစ်လျှင် အနည်းဆုံး တစ်ကြိမ်ကျင်းပရမည်။ ထိုသို့ကျင်းပသောအခါ၊ ပြည်နယ် ကောင်စီညီလာခံတစ်ခု၏ နောက်ဆုံးအစည်းအဝေးနှင့် နောက်ထပ် ကျင်းပသော ပြည်နယ်ကောင်စီညီလာခံ၏ ပဌမအစည်းအဝေးတို့၏အကြားတွင် ၁၂ လခြား မနေစေရ။

ကရင်ပြည်နယ်အစိုးရ။

၁၈၁။ ။ (၁) ဝန်ကြီးချုပ်သည်၊ ကရင်ပြည်နယ်ကောင်စီနှင့် ညှိနှိုင်းတိုင်ပင်၍ ထိုကောင်စီအမတ်များအနက်၊ အမတ်တစ်ဦးဦး၏အမည်ကို တင်သွင်းသောအခါ၊ ထိုသို့အမည်တင်သွင်းခြင်းခံရသောအမတ်ကို နိုင်ငံတော်သမ္မတသည်၊ အောက်တွင် " ကရင် ပြည်နယ်ဝန်ကြီး " ဟုခေါ်တွင်ရမည်ဖြစ်သော၊ ပြည်ထောင်စုအစိုးရအဖွဲ့ဝင်ဝန်ကြီးအဖြစ်ဖြင့် ခန့်ထားရမည်။

ထိုသို့ခန့်ထားခြင်းခံရသောဝန်ကြီးသည်၊ အခြေခံဥပဒေ၏ကိစ္စများအတွက် ကရင်ပြည်နယ် ဥက္ကဋ္ဌလည်း ဖြစ်ရမည်။

(၂) ကရင်ပြည်နယ်ဥက္ကဋ္ဌသည်၊ ကရင်ပြည်နယ်စီရင်အုပ်ချုပ်ရေး ကိစ္စကို တာဝန်ယူ၍ဆောင်ရွက်ရမည်၊ ဆိုလိုရင်းမှာ၊ ကရင် ပြည်နယ်ဥက္ကဋ္ဌသည် တိုက်ရိုက်ဖြစ်စေ၊ လက်အောက်ခံအရာရှိများမှတစ်ဆင့်ဖြစ်စေ၊ ပြည်နယ်၏အုပ်ချုပ်မှုအခွင့်အာဏာ ကိုသုံးစွဲနိုင်ရမည်။

(၃) ပုဒ်မခွဲ (၄)ရှိ ပြဋ္ဌာန်းချက်များ၏ ယေဘူယျသဘောကို မထိခိုက် စေဘဲဆိုခဲ့သော အုပ်ချုပ်မှု အခွင့်အာဏာသည်၊ ပြည်နယ် အုပ်ချုပ်ရေးဆိုင်ရာ အရာထမ်း၊ အမှုထမ်းများ ခန့်ထားခြင်း၊ နေရာချခြင်း၊ ရွှေ့ပြောင်းပေးခြင်း၊ ထိုအရာထမ်းအမှုထမ်းများ စည်းကမ်း သေဝပ်ခြင်းကိစ္စအားလုံးသို့ သက်ရောက် ပြန့်နှံ့ရမည်။

(၄) အခြေခံဥပဒေရှိ ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ၊ ပြည်နယ်၏ အုပ်ချုပ်မှုအခွင့်အာဏာသည်၊ ပြည်နယ်ကောင်စီက တရား ဥပဒေပြုပိုင်သော ကိစ္စများသို့ သက်ရောက်ပြန့်နှံ့သည်။ အုပ်ချုပ်မှု အခွင့်အာဏာကို သုံးစွဲရာတွင်၊ ပြည်နယ်ဥက္ကဋ္ဌသည်ကောင်စီ ၏ဆုံးဖြတ်ချက်ကိုလိုက်နာရမည်။

(၅) ပြည်နယ်ဆိုင်ရာ အခြားကိစ္စအားလုံးတွင် ပြည်နယ်ဥက္ကဋ္ဌသည်ပြည် နယ် ကောင်စီနှင့် ညှိနှိုင်းတိုင်ပင်ရမည်။

(၆) ကရင်ပြည်နယ်ကောင်စီ၏ဆုံးဖြတ်ချက်များနှင့် ထင်မြင်ချက်များကို ပြည်နယ်ဥက္ကဋ္ဌထံသို့တင်ပြရာတွင် လွယ်ကူစိမ့်သောငှာ ပြည်နယ်ကောင်စီသည် ရွေးကောက်ပွဲပြီးသည့်နောက် ပဋ္ဌမ အကြိမ်ကျင်းပသော အစည်းအဝေးတွင် ကောင်စီအမတ်များ ထဲမှသော်လည်းကောင်း၊ ကောင်စီ အမတ်မဟုတ်သူများထဲမှ သော်လည်းကောင်း ရွေးချယ်၍ ပြည်နယ်အစိုးရအဖွဲ့ကို ဖွဲ့စည်းရမည်။ ထိုအစိုးရအဖွဲ့သည် ပြည်နယ်ဥက္ကဋ္ဌကို အလုပ်ဝတ္တရား များဆောင်ရွက်ရာတွင် ကူညီရန် အကြံပေးရန်ဖြစ်သည်။

(၇) ပြည်နယ်ဥက္ကဋ္ဌသည် ပြည်နယ်ကောင်စီ၏သာမန်ညီလာခံ ကျင်းပသောအခါများ၌၊ မိမိဆောင်ရွက်ခဲ့သော လုပ်ငန်း ဆောင်တာအကြောင်းကို ပြောကြားရမည်၊ သို့တည်းမဟုတ် ပြောကြားစေရမည်။ ကရင်ပြည်နယ်ကိစ္စအားလုံးနှင့်သက် ဆိုင်သော အစီရင်ခံစာကို တင်သွင်းရမည်၊ သို့တည်းမဟုတ် တင်သွင်းစေရမည်။ ပြည်နယ်၏အကျိုးစီးပွားတိုးတက်ရာ တိုးတက်ကြောင်း ဖြစ်သည်ဟုထင်မြင်ယူဆသော စီမံချက် များကို စဉ်းစားဆွေးနွေးစေရန် ပြည်နယ်ကောင်စီအား ထောက်ခံ အကြံပေးရမည်။

(၈) ပြည်နယ်ဥက္ကဋ္ဌသည်၊ ဘဏ္ဍာတော်နှစ်တိုင်း တစ်နှစ်အတွက် ပြည်နယ်ဆိုင်ရာအရမှန်းခြေငွေ စာရင်းနှင့် အသုံးမှန်းခြေ ငွေစာရင်းများကို ပြုရမည်၊ သို့တည်းမဟုတ်ပြုစေရမည်၊ ထိုငွေစာရင်း များကို စဉ်းစားဆွေးနွေးစေရန်၊ ပြည်နယ်ကောင်စီ သို့တင်သွင်းရမည်၊ သို့တည်းမဟုတ် တင်သွင်းစေရမည်။

(၉) ပြည်ထောင်စုအစိုးရ၏အထောက်အပံ့ငွေနှင့်စပ်လျဉ်း၍ပြည်ထောင်စုအစိုးရက သတ်မှတ်သောစည်းကမ်းချက်များနှင့်မဆန့်ကျင်စေဘဲ၊ ပြည်နယ်ကောင်စီသည် ပြည်နယ်၏ ဘတ်ဂျက်ကို လက်ခံအတည်ပြုနိုင်ရန် အာဏာရှိရမည်၊ ထို စည်းကမ်းချက်များအတိုင်း၊ ပြည်နယ်ကောင်စီကကျနစွာ လိုက်နာကြောင်း၊ နိုင်ငံတော်သမ္မတအား ကျေနပ်နိုင်စေရန်ပြည်နယ်၏ ဘတ်ဂျက်ကို ပြည်ထောင်စုအစိုးရ၏ ဘတ်ဂျက် တွင်ထည့်သွင်းဖော်ပြရမည်။

(၁၀) ဤအခြေခံဥပဒေ၏အခန်း ၁၀ ရှိ ပြဋ္ဌာန်းချက်များသည် ကရင် ပြည်နယ်နှင့် မသက်ဆိုင်စေရ။

(၁၁) အခြေခံဥပဒေရှိ ပြဋ္ဌာန်းချက်များနှင့်မဆန့်ကျင်စေဘဲ၊ ပြည်နယ် ဥက္ကဋ္ဌ၊ ပြည်နယ်ကောင်စီ၊ ပြည်နယ်အစိုးရအဖွဲ့တို့၏ အာဏာ နှင့်တာဝန်ဝတ္တရားများဆိုင်ရာကိစ္စများ၊ ထို့ပြင် ထိုဥက္ကဋ္ဌ၊ ထိုကောင်စီ၊ ထိုအစိုးရအဖွဲ့တို့အချင်းချင်းဆက်ဆံရေးကိစ္စ များ၊ ထို့ပြင် ထိုဥက္ကဋ္ဌ၊ ထိုကောင်စီ၊ ထိုအစိုးရအဖွဲ့တို့နှင့်ပြည်ထောင်စုအစိုးရ၏ ဆက်ဆံရေးကိစ္စများပါဝင်သော ပြည်နယ်၏ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေဆိုင်ရာကိစ္စ အားလုံးကို တရားဥပဒေဖြင့် ပြဋ္ဌာန်းသတ်မှတ်ရမည်။

ခြွင်းချက်။ ။ သို့ရာတွင် ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေပုဒ်မ ၂၃၃အရ၊ ပဌမအမတ်ရွေးကောက်ပွဲ ကျင်းပပြီးလျှင် ဖွဲ့စည်းသောပါလီမန်ကို ဖျက်သိမ်းသောနေ့အထိ၊ကရင်ပြည်နယ်ကောင်စီကို ပါလီမန်ရှိ ကရင်အမျိုးသား ၏ကိုယ်စားလှယ်အမတ်အားလုံးဖြင့် ဖွဲ့စည်းရမည်။ "

၅။ ။ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေပုဒ်မ ၁၉၅ ကို ပယ်ဖျက်ရမည်။

၆။ ။ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေပုဒ်မ ၂၀၉၊ ပုဒ်မခွဲ(၅)တွင် ပါရှိသော " ကရင်အမျိုးသားများအား၊ သို့တည်းမဟုတ်" ဆိုသည့်စကားရပ်ကို ပယ်ဖျက်ရမည်။

၇။ ။ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ၏ ဒုတိယဇယားတွင် -

(က) အပိုဒ်(င)အစား၊ အောက်ပါအပိုဒ်ကို ထည့်သွင်းရမည်။

" (င)တစ်ဆယ့်ငါးနေရာကို ကရင်ပြည်နယ်မှ ကိုယ်စားလှယ်များဖြင့် ဖြည့်သွင်းရမည်။ "

(ခ) အပိုဒ်(စ)တွင် " ငါးဆယ့်သုံးနေရာကိုဒဒ ဆိုသည့်စကားရပ်အစား၊

" ခြောက်ဆယ့်နှစ် နေရာကိုဒဒ ဆိုသည့် စကားရပ်ကို ထည့်သွင်းရမည်။

၈။ ။ ပြည်ထောင်စုမြန်မာနိုင်ငံတော်ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေတွင် " ကရင်နီပြည်နယ် " ဆိုသည့်စကားရပ် ပါရှိသည့်နေရာတိုင်း၌ ထိုစကားရပ်အစား " ကယားပြည်နယ် " ဆိုသည့်စကားရပ်ကို ထည့်သွင်းရမည်။

နောက်ဆက်တွဲ " ၈ "

## ၁၉၅၉ ခုနှစ်၊ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေကို (ပြင်ဆင်ချက်) အက်ဥပဒေ။

(၁၉၅၉ ခုနှစ်၊ အက်ဥပဒေအမှတ် ၄။)

ပြည်ထောင်စုမြန်မာနိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေကို ပြင်ရန် အက်ဥပဒေ။

အောက်ပါအတိုင်း အက်ဥပဒေအဖြစ် ပြဋ္ဌာန်းလိုက်သည်။

၁။ ။ (၁) ဤအက်ဥပဒေကို၊ ၁၉၅၉ ခုနှစ်၊ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ(ပြင်ဆင်ချက်)အက်ဥပဒေဟုခေါ်တွင်စေရမည်။

(၂) ဤအက်ဥပဒေသည် နောက်တစ်ကြိမ် ရွေးကောက်တင်မြှောက်သည့် ပြည်သူ့ လွှတ်တော်မှ အမည်တင်သွင်းသောပုဂ္ဂိုလ်အား၊ နိုင်ငံတော်သမ္မတက ဝန်ကြီးချုပ်ခန့်ထားသည့်နေ့ရက်တိုင်အောင် အာဏာတည်နေစေရမည်။

(၃) ဤအက်ဥပဒေအာဏာတည်ခြင်းမှ ရပ်စဲသည့်အခါ၊ မြန်မာနိုင်ငံတော် ယေဘူယျစကားရပ်အက်ဥပဒေပါပုဒ်မ ၅ ရှိ ပြဋ္ဌာန်းချက်များသည်၊ အကျိုးသက်ရောက်စေရမည်။

၂။ ။ ဤအက်ဥပဒေအာဏာတည်လျှက်ရှိနေသမျှကာလပတ်လုံး ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံ ဥပဒေပုဒ်မ ၁၁၆ ပါ ပြဋ္ဌာန်းချက်များကို ရပ်သိမ်းထားဘိသကဲ့သို့ မှတ်ယူစေရမည်။

# ၁၉၅၉ ခုနှစ်၊ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေကို (ဒုတိယပြင်ဆင်ချက်) အက်ဥပဒေ။

(၁၉၅၉ ခုနှစ်၊ အက်ဥပဒေအမှတ် ၁၀။)

(ပြည်ထောင်စုမြန်မာနိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေကို ပြင်ရန် အက်ဥပဒေ။)

အောက်ပါအတိုင်း အက်ဥပဒေအဖြစ် ပြဋ္ဌာန်းလိုက်သည်။

၁။ ။ (၁) ဤအက်ဥပဒေကို၊ ၁၉၅၉ ခုနှစ်၊ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ (ဒုတိယပြင်ဆင်ချက်) အက်ဥပဒေဟုခေါ်တွင်စေရမည်။

(၂) ဤအက်ဥပဒေသည် နောက်တစ်ကြိမ် ရွေးကောက်တင်မြှောက်သည့် ပြည်သူ့လွှတ်တော်ကို ဖျက်သိမ်းသည့်နေ့ရက်၏နောက်နေ့တွင် စတင်အာဏာတည်ရမည်။

၂။ ။ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေပုဒ်မ ၁၅၄၏ ပုဒ်မခွဲ(၂)နှင့် ပုဒ်မ ၁၈၃၏ ပုဒ်မခွဲ (၁)တို့ကို ဤအက်ဥပဒေဖြင့် ရုပ်သိမ်းလိုက်သည်။

## ၁၉၆၁ ခုနှစ်၊ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေကို (ပြင်ဆင်ချက်)

## အက်ဥပဒေ။

(၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၃။)

(ပြည်ထောင်စုမြန်မာနိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေကို ပြင်ရန် အက်ဥပဒေ။)

အောက်ပါအတိုင်း အက်ဥပဒေအဖြစ် ပြဋ္ဌာန်းလိုက်သည်။

၁။ ။ ဤအက်ဥပဒေကို၊ ၁၉၆၁ ခုနှစ်၊ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ ( ပြင်ဆင်ချက်) အက်ဥပဒေဟုခေါ်တွင်စေရမည်။

၂။ ။ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေပုဒ်မ ၂ အစား၊ အောက်ပါကို ပုဒ်မ ၂ အဖြစ်ထည့်သွင်း ရမည်။

`` ၂။ ။ အောက်ပါနယ်မြေများနှင့် နယ်များပါဝင်ကြသည့် မြန်မာနိုင်ငံတစ်နိုင်ငံလုံးသည်၊ ပြည်ထောင်စုမြန်မာနိုင်ငံတွင် ပါဝင်ရမည်။

(က) ၁၉၆၀ ပြည့်နှစ်၊ အောက်တိုဘာလ ၁ ရက်နေ့တွင် ပြည်ထောင်စု မြန်မာနိုင်ငံနှင့် တရုပ်ပြည်သူ့သမ္မတနိုင်ငံတို့ချုပ်ဆိုကြ၍၊ ၁၉၆၁ ခုနှစ်၊ ဇန်နဝါရီလ ၄ ရက်နေ့တွင် စာချုပ်ဝင် နိုင်ငံနှစ်နိုင်ငံအစိုးရတို့ အသီးသီးနည်းလမ်းတကျ လက်ခံအတည်ပြုကြသော နယ်နိမိတ် စာချုပ် အပိုဒ် ၉ နှင့် ၁၀ပါ သတ်မှတ်ချက်တို့ကို အထောက်အထားပြု၍ ယခင်ဗြိတိသျှဘုရင်မင်းမြတ်ကိုယ်စား၊ မြန်မာပြည်ဘုရင်ခံ စီရင်အုပ် ချုပ်ခဲ့သော နယ်မြေအားလုံး၊

(ခ) ကယားပြည်နယ်၊ ထို့ပြင်

(ဂ) ရယူသည့်အခြားနယ်မြေများရှိလျှင်၊ ထိုအခြားနယ်မြေများ။ ``

၃။ ။ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေပုဒ်မ ၅ အစား၊ အောက်ပါကို ပုဒ်မ ၅ အဖြစ်ထည့် သွင်းရမည်။

`` ၅။ ။ ပုဒ်မ ၂၊ အပိုဒ်(က)ပါ ပြဋ္ဌာန်းချက်များကို အထောက်အထားပြု၍ ပဒေသရာဇ် ရှမ်းပြည်နယ်စုဟူ၍ ယခင်ကခေါ်တွင်ခဲ့သောနယ်မြေများနှင့် ဝ နယ်များကို ပြည်ထောင်စုမြန်မာနိုင်ငံအတွင်းတွင်၊ ပြည်ထောင်စုအဖွဲ့ဝင်တစ်ခုအဖြစ် ဖွဲ့စည်းရမည်။ ထိုပြည်ထောင်စုအဖွဲ့ဝင်ကို ဤမှနောင်အဖို့တွင် ``ရှမ်းပြည်နယ်``ဟုခေါ်ရမည်။

၄။ ။ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေပုဒ်မ ၆ အစား၊ အောက်ပါကို ပုဒ်မ ၆ အဖြစ် ထည့်သွင်းရမည်။

`` ၆။ ။ ပုဒ်မ ၂၊ အပိုဒ်(က)ပါ ပြဋ္ဌာန်းချက်များကို အထောက်အထားပြု၍ မြစ်ကြီးနားနှင့် ဗန်းမော်ခရိုင်များဟူ၍ ယခင်ကခေါ်တွင်ခဲ့သောနယ်မြေများကိုပြည်ထောင်စု မြန်မာနိုင်ငံအတွင်းတွင်၊ ပြည်ထောင်စုအဖွဲ့ဝင်တစ်ခုအဖြစ် ဖွဲ့စည်းရမည်။ ထိုပြည်ထောင်စုအဖွဲ့ဝင်ကို ဤမှနောင်အဖို့တွင် `` ကချင်ပြည်နယ် ``ဟုခေါ် ရမည်။ ``

# ၁၉၆၁ ခုနှစ်၊ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေကို (ဒုတိယ) ပြင်ဆင်ချက် အက်ဥပဒေ။

(၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၇။)

(ပြည်ထောင်စုမြန်မာနိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံအက်ဥပဒေကို ပြင်ဆင်ရန် အက်ဥပဒေ။)

အောက်ပါအတိုင်း အက်ဥပဒေအဖြစ် ပြဋ္ဌာန်းလိုက်သည်။

၁။ ။ (၁) ဤအက်ဥပဒေကို၊ ၁၉၆၁ ခုနှစ်၊ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ (ဒုတိယ) ပြင်ဆင်ချက် အက်ဥပဒေဟု ခေါ်တွင်စေရမည်။

(၂) ဤအက်ဥပဒေသည် နိုင်ငံတော်သမ္မတက အမိန့်ကြော်ငြာစာဖြင့် သတ်မှတ် သည့်နေ့ရက်တွင် စတင်အာဏာတည်ရမည်။

၂။ ။ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေအခန်း ၆ တွင်၊ အောက်ပါကို အပိုင်း ၆ အဖြစ် ထည့်သွင်းရမည်။

" အပိုင်း ၆။ ရွေးကောက်ပွဲများ ။ "

၁၁၃-က။ ။ ရွေးကောက်ပွဲအရပ်ရပ်အတွက် မဲစာရင်းများပြုလုပ်ခြင်းနှင့်၄င်း၊ ပါလီမန် ရွေးကောက်ပွဲများ ကျင်းပခြင်းနှင့်၄င်း၊ ဤအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များကို သို့တည်းမဟုတ် ပါလီမန် ဆိုင်ရာ လွှတ်တော်နှစ်ရပ်လုပ်ငန်းစဉ် နည်းဥပဒေများကို၊ သို့တည်းမဟုတ် ၁၉၄၉ ခုနှစ်၊ နိုင်ငံတော်သမ္မတ ရွေးကောက်တင်မြှောက်မှုအက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေဘဲ၊ အခြားတရားဥပဒေတစ်ခုခု အရရွေးကောက်ပွဲများကျင်းပခြင်းနှင့်လည်းကောင်း စပ်လျဉ်း၍ ကြီးကြပ်ရေး၊ ညွှန်ကြားရေးနှင့် အုပ်ချုပ်ရေးအာဏာတို့သည် ပုဒ်မ ၁၁၃-ခအရ ဖွဲ့စည်းထားသော ရွေးကောက်ပွဲကော်မရှင်၌ တည်ရှိ ရမည်။

၁၁၃-ခ။ ။ (၁) ပါလီမန်ဆိုင်ရာ လွှတ်တော်နှစ်ရပ်တွဲဖက်အစည်းအဝေး၏ သဘောတူ ချက်ကိုရယူ၍၊ နိုင်ငံတော်သမ္မတကိုယ်တိုင် လက်မှတ်ရေးထိုးတံဆိပ်ခတ်နှိပ်သည့် အမိန့်စာဖြင့်ခန့်ထားသော ရွေးကောက်ပွဲမင်းကြီးချုပ်နှင့် အခြားလေးဦးထက်မပိုသော ရွေးကောက်ပွဲမင်းကြီးများပါဝင်သော ရွေးကောက်ပွဲကော်မရှင်တစ်ခုကို ဖွဲ့စည်းရမည်။

(၂) ရွေးကောက်ပွဲမင်းကြီးချုပ်နှင့် ရွေးကောက်ပွဲမင်းကြီးများကို ပါလီမန်ဖျက် သိမ်းထားသည့်အခါတွင် ခန့်အပ်ရန်လိုပါက၊ နိုင်ငံတော်သမ္မတက ခန့်ထားနိုင်ရမည်။ သို့ရာတွင် အဆိုပါ ခန့်ထားခြင်းအတွက် ပါလီမန်ဆိုင်ရာ လွှတ်တော်နှစ်ရပ်တွဲဖက်အစည်းအဝေး၏ သဘာဝတူညီအတည် ပြုချက်ကို နောက်ပါလီမန်၏ ပဌမညီလာခံတွင် ရယူရမည်။

(၃) ပုဒ်မခွဲ(၁)နှင့်(၂)တို့အရ၊ ရွေးကောက်ပွဲမင်းကြီးချုပ်အဖြစ်လည်းကောင်း၊ ရွေးကောက်ပွဲ မင်းကြီးများအဖြစ်လည်းကောင်း ခန့်ထားခြင်းတို့ကို ပါလီမန်တွင် ဆွေးနွေးခြင်းမပြုရ။

(၄) ရွေးကောက်ပွဲမင်းကြီးချုပ်သည် ရွေးကောက်ပွဲကော်မရှင်၏ ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ရမည်။

(၅) အခြားရွေးကောက်ပွဲမင်းကြီးများသည် ရွေးကောက်ပွဲကော်မရှင်တွင် ရာထူးသက်အနုအရင့်လိုက်၍ ရာထူးစဉ်ရှေ့နောက် ဖြစ်ရမည်။

၁၁၃-ဂ။ ။ (၁) ပုဒ်မ ၁၁၃-ခ အရ၊ ရွေးကောက်ပွဲမင်းကြီးချုပ်အဖြစ်လည်းကောင်း၊ ရွေးကောက်ပွဲ မင်းကြီးများအဖြစ်လည်းကောင်း၊ ခန့်ထားခြင်းခံရသော ပုဂ္ဂိုလ်တို့သည်၊ အောက်ပါအတိုင်း

သစ္စာဆို၍ လက်မှတ်ထိုးရမည်။

" ကျွန်ုပ် ----------သည် ရွေးကောက်ပွဲမင်းကြီးချုပ် (သို့တည်းမဟုတ် ရွေးကောက်ပွဲမင်းကြီး)၏တာဝန်အလုပ်ဝတ္တရားများကို ဖြောင့်မတ်မှန်ကန်စွာ မျက်နှာကြီးငယ်မရွယ်မထောက်၊ ဆန္ဒ၊ ဒေါသ၊ ဘယာဂတိများသို့ မလိုက်၊ ကိုယ်စွမ်းရှိသမျှ၊ ဉာဏ်စွမ်းရှိသမျှ ကျေကုန်အောင်ထမ်းရွက်ပါမည်။ထို့ပြင် ကျွန်ုပ်သည်၊ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေနှင့်တကွ တရားဥပဒေများကို ထိန်းသိမ်းစောင့်ရှောက် မည်ဟု လေးနက်တည်ကြည်စွာ ကျေညာ၍ ကတိသစ္စာပြုပါသည်။ "

(၂) ရွေးကောက်ပွဲကော်မရှင်ဝင်အသီးသီးသည် နိုင်ငံတော်တရားဝန်ကြီးချုပ်၏ ရှေ့မှောက်၌သော်လည်းကောင်း၊ ဤကိစ္စအတွက်ဆောင်ရွက်နိုင်မည်ဖြစ်သော တရားလွှတ်တော်ချုပ် မှဝါအရင့်ဆုံးတရားဝန်ကြီး၏ ရှေ့မှောက်၌သော်လည်းကောင်း၊ အထက်ပါအတိုင်းသစ္စာဆို၍ လက်မှတ် ရေးထိုးရမည်။

(၃) ရွေးကောက်ပွဲကော်မရှင်ဝင်အသီးသီးသည် ရွေးကောက်ပွဲကော်မရှင်ဝင် အဖြစ်ဖြင့် တာဝန်အလုပ်ဝတ္တရားများကို စတင်မဆောင်ရွက်မီသစ္စာဆို၍ လက်မှတ်ရေးထိုးရမည်။

(၄) အထက်ပါအတိုင်း သစ္စာမဆိုလို၍ လက်မှတ်မထိုးလိုဟု ငြင်းဆန်သော သို့တည်းမဟုတ် ပျက်ကွက်သော ရွေးကောက်ပွဲကော်မရှင်ဝင်တစ်ဦးဦးသည်၊ ရာထူးကိုလက်မခံလို ငြင်းပယ်ရာရောက်သည်ဟူ၍ မှတ်ယူရမည်။

၁၁၃-ဃ။ ။ ရွေးကောက်ပွဲကော်မရှင်ဝင်အားလုံးသည်၊ ဤအခြေခံဥပဒေနှင့်တရားဥပဒေ များကိုသာ လိုက်နာ၍ မိမိတို့၏တာဝန်အလုပ်ဝတ္တရားများကို လွတ်လပ်စွာဆောင်ရွက်နိုင်ရမည်။

၁၁၃-င။ ။ တစ်ဦးတစ်ယောက်သောသူသည်၊ မိမိကိုယ်တိုင်သော်လည်းကောင်း၊ မိမိ၏ မိဘနှစ်ပါးသော်လည်းကောင်း၊ ပြည်ထောင်စုမြန်မာနိုင်ငံ၏အာဏာပိုင်နက်တွင် မွေးဖွားခဲ့၍ မိမိကိုယ်တိုင် ပြည်ထောင်စုမြန်မာနိုင်ငံသားဖြစ်သောသူ မဟုတ်လျှင်၊ ထိုသူမှာ ရွေးကောက်ပွဲကော်မရှင်ဝင်အဖြစ် ခန့်ထားထိုက်သော အရည်အချင်းပြည့်စုံခြင်း မရှိစေရ။

၁၁၃-စ။ ။ (၁) ရွေးကောက်ပွဲကော်မရှင်ဝင်တစ်ဦးသည် မိမိကိုယ်တိုင်လက်မှတ်ရေးထိုးသော နုတ်ထွက်စာကို နိုင်ငံတော်သမ္မတထံသို့ တင်သွင်းခြင်းဖြင့် ရာထူးမှနုတ်ထွက်နိုင်သည်။

(၂) ထင်ရှားသည်ဟု ဆုံးဖြတ်ပြီးဖြစ်သည့်အကျင့်စာရိတ္တပျက်ပြားမှုကြောင့် ဖြစ်စေ၊ မစွမ်းဆောင်နိုင်မှုကြောင့်ဖြစ်စေ၊ ထိုအကြောင်းတစ်ခုခုကြောင့်မှတစ်ပါး၊ ရွေးကောက်ပွဲကော်မရှင်ဝင်တစ်ဦးကို ရာထူးမှ မနုတ်ပယ်ရ။

(၃) ဤပုဒ်မရှိပြဋ္ဌာန်းချက်များနှင့်အညီ ပါလီမန်ဆိုင်ရာ လွှတ်တော်တစ်ရပ် ရပ်သည် စွပ်စွဲချက်ကို တင်ပြရမည်။

(၄) သက်ဆိုင်ရာလွှတ်တော်အမတ်စုစုပေါင်း၏ လေးပုံတစ်ပုံအောက်မလျော့သော အမတ်များက လက်မှတ်ရေးထိုး၍ အကြောင်းကြားသောအခါမှာမှတစ်ပါး၊ ပါလီမန်ဆိုင်ရာလွှတ်တော် တစ်ရပ်ရပ်တွင် ဤပုဒ်မအရတင်ပြရန်ဖြစ်သော စွပ်စွဲချက်အဆိုကို အရေးတယူပြု၍ မစဉ်းစားရ။

(၅) လွှတ်တော်အစည်းအဝေးတက်သော အမတ်များအနက်၊ အမတ်များရာက ထောက်ခံ၍၊ ဆုံးဖြတ်ပြဋ္ဌာန်းချက်ချသောအခါမှာမှတစ်ပါး ထိုကဲ့သို့သော စွပ်စွဲချက်အဆိုကို လက်မခံရ။

(၆) စွပ်စွဲချက်ကို အထူးခုံတော်အဖွဲ့က စုံစမ်းစစ်ဆေးရမည်။ ထိုခုံတော်အဖွဲ့တွင်

နိုင်ငံတော်တရားဝန်ကြီးချုပ်၊ လူမျိုးစုလွှတ်တော်နာယကနှင့် ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌတို့ ပါဝင်ရမည်။

(ဂ) စွပ်စွဲချက်ကိုစုံစမ်းစစ်ဆေးရာတွင်၊ စွပ်စွဲချက်တင်ပြခြင်းခံရသော ရွေးကောက်ပွဲကော်မရှင်ဝင်၌၊ မိမိကိုယ်တိုင်သော်လည်းကောင်း၊ မိမိ၏ကိုယ်စားလှယ်ဖြင့်သော် လည်းကောင်း ချေပခွင့်ရှိရမည်။

(ဃ) အထူးခုံတော်အဖွဲ့သည် စုံစမ်းစစ်ဆေးပြီးနောက်၊ စွပ်စွဲချက်ကိုတင်ပြခဲ့ သောလွှတ်တော်သို့ အစီရင်ခံစာ တင်ပြရမည်။ စွပ်စွဲချက်မထင်ရှားဟု အထူးခုံတော်အဖွဲ့က အားလုံး သဘောတူယူဆခဲ့သော်၊ ထိုယူဆချက်သည် အပြီးအပြတ် အတည်ဖြစ်ရမည်။ သို့ရာတွင် သဘော ကွဲလွဲသောအခါများ၌မူကား၊ အထူးခုံတော်အဖွဲ့၏အစီရင်ခံစာကိုပါလီမန်ဆိုင်ရာ လွှတ်တော်နှစ်ရပ်လုံးက တွဲဖက်အစည်းအဝေးတွင် စဉ်းစားဆွေးနွေးရမည်။

စွပ်စွဲချက်ကို စဉ်းစားဆွေးနွေးပြီးနောက် စွပ်စွဲချက်ထင်ရှားသည်ဟူ၍လည်းကောင်း၊ ရွေးကောက်ပွဲကော်မရှင်ဝင်၏ အကျင့်စာရိတ္တပျက်ပြားခြင်းသည်၊ သို့တည်းမဟုတ် မစွမ်းမဆောင်နိုင်ခြင်း သည်၊ ရာထူး၌ဆက်လက်ထမ်းရွက်စေရန် မသင့်မထိုက်သော အကျင့်စာရိတ္တပျက်ပြားခြင်းမျိုး၊ သို့တည်း မဟုတ်မစွမ်းမဆောင်နိုင်ခြင်းမျိုးဖြစ်သည်ဟူ၍လည်းကောင်း၊ တွဲဖက်အစည်းအဝေးတက်ရောက်မဲပေးသော အမတ်များရာက အစည်းအဝေးတွင် ထောက်ခံ၍ ဆုံးဖြတ် ကျေညာခဲ့သော် နိုင်ငံတော်သမ္မတသည် မိမိ ကိုယ်တိုင်လက်မှတ်ရေးထိုး တံဆိပ်ခတ်နှိပ်သောအမိန့်စာဖြင့် သက်ဆိုင်ရာ ရွေးကောက်ပွဲကော်မရှင်ဝင်ကို ရာထူးမှချက်ခြင်း နုတ်ပယ်ရမည်။

၁၁၃-ဆ။ ။ ပြည်ထောင်စုနိုင်ငံဝန်ထမ်းအားလုံးနှင့် စပ်လျဉ်း၍၊ အသုံးချွေတာခြင်း၊ ရာထူးအရေအတွက်လျှော့ခြင်း တို့ကို ပြုသောအခါတွင်၊ ရွေးကောက်ပွဲကော်မရှင်ဝင်တစ်ဦးဦးသည် မိမိ၏ လစာကိုလျှော့စေရန်၊ မိမိအလိုအလျှောက် သဘောမတူခဲ့သော် ရွေးကောက်ပွဲကော်မရှင်ဝင်တစ်ဦးကို ခန့်ထားပြီးမှ သူ၏ လစာကိုသော်လည်းကောင်း၊ အခွင့်ယူခြင်းနှင့်၊ သို့တည်းမဟုတ် ပင်ရှင်ယူခြင်းနှင့် စပ်လျဉ်းသော အခွင့်အရေးများကိုသော်လည်းကောင်း၊ သူ့အကျိုးနစ်နာအောင် ပြောင်းလဲခြင်းမပြုရ။

၁၁၃-ဇ။ ။ ဤအခြေခံဥပဒေအရပေးအပ်ထားသောအာဏာကို ပိုမိုထိရောက်စွာသုံးစွဲ နိုင်စေခြင်း အလို့ငှာ၊ လိုအပ်သည်ဟု သို့တည်းမဟုတ် အလိုရှိထိုက်သည်ဟု ထင်မြင်ယူဆနိုင်၍ ဤအခြေခံဥပဒေ ရှိပြဋ္ဌာန်းချက်များနှင့်လည်း မညီမညွတ်မဖြစ်သော ထပ်ဖြည့်အာဏာများကို၊ရွေးကောက်ပွဲ ကော်မရှင်အားပေးအပ်ရန်၊ ပါလီမန်သည် အက်ဥပဒေဖြင့်ပြဋ္ဌာန်းနိုင်သည်။

၁၁၃-ဈ။ ။ ရွေးကောက်ပွဲကော်မရှင်၊ ရွေးကောက်ပွဲမင်းကြီးချုပ်၊ အခြားရွေးကောက်ပွဲ မင်းကြီးများနှင့်စပ်လျဉ်း၍၊ ဤအခြေခံဥပဒေရှိ အထက်ကဖော်ပြခဲ့သော ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင် စေဘဲ၊ အောက်ပါကိစ္စများကို တရားဥပဒေနှင့်အညီ သတ်မှတ်ရမည်။

(က) ရွေးကောက်ပွဲမင်းကြီးချုပ်နှင့် ရွေးကောက်ပွဲမင်းကြီးများ၏လစာငွေ၊ အငြိမ်းစား ယူသောအသက်အရွယ်နှင့် ပင်ရှင်လစာငွေကိစ္စများ၊ ထို့ပြင်

(ခ) ရွေးကောက်ပွဲကော်မရှင်၏ လုပ်ငန်းဆောင်တာများကို ခွဲဝေပေးခြင်းအာဏာ များနှင့်လုပ်ငန်းစဉ် ဆိုင်ရာကိစ္စများ။

၁၁၃-ည။ ။ သီးခြားအက်ဥပဒေ၊ သို့တည်းမဟုတ် နည်းဥပဒေများပြဋ္ဌာန်းခြင်းမပြုသေးမီ အချိန်အတွင်း ဆောင်ရွက်ရန်ရှိသော ရွေးကောက်ပွဲအရပ်ရပ်အတွက် မဲစာရင်းများပြုလုပ်ခြင်းနှင့် လည်းကောင်း၊ ပါလီမန်ရွေးကောက်ပွဲများ ကျင်းပခြင်းနှင့်လည်းကောင်း၊ ဤအခြေခံဥပဒေပါ ပြဋ္ဌာန်းချက်များကို၊ သို့တည်းမဟုတ် ပါလီမန်ဆိုင်ရာလွှတ်တော်နှစ်ရပ်လုပ်ငန်းစဉ်နည်းဥပဒေများကို သို့တည်းမဟုတ် ၁၉၄၉ ခုနှစ်၊ နိုင်ငံတော်သမတရွေးကောက်တင်မြှောက်မှုအက်ဥပဒေပါ

ပြဌာန်းချက် များကိုမထိခိုက်စေဘဲ အခြားတရားဥပဒေတစ်ခုခုအရ ရွေးကောက်ပွဲများ ကျင်းပခြင်းနှင့်လည်းကောင်း စပ်လျဉ်း၍ ကြီးကြပ်ရေး၊ ညွှန်ကြားရေးနှင့် အုပ်ချုပ်ရေးတို့ကို၊ ရွေးကောက်ပွဲကော်မရှင်က လက်ရှိတရား ဥပဒေများအရ ဆောင်ရွက်ရမည်။

နောက်ဆက်တွဲ " ၁၂"

## ၁၉၆၁ ခုနှစ်၊ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေကို (တတိယ) ပြင်ဆင်ချက် အက်ဥပဒေ။

(၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၁၇။)

အောက်ပါအတိုင်း အက်ဥပဒေအဖြစ် ပြဋ္ဌာန်းလိုက်သည်။

၁။ ။ (၁) ဤအက်ဥပဒေကို၊ ၁၉၆၁ ခုနှစ်၊ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ (တတိယ) ပြင်ဆင်ချက် အက်ဥပဒေဟု ခေါ်တွင်စေရမည်။

(၂) ဤအက်ဥပဒေသည် နိုင်ငံတော်သမ္မတက အမိန့်ကြော်ငြာစာဖြင့် သတ်မှတ်သည့်နေ့ရက်တွင် စတင်အာဏာတည်ရမည်။

၂။ ။ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေပုဒ်မ ၂၁ တွင် -

(က) ပုဒ်မခွဲ(၁)အစား၊ အောက်ပါကို ပုဒ်မခွဲ(၁)အဖြစ် ထည့်သွင်းရမည်။

" (၁) ဗုဒ္ဓဘာသာ သာသနာတော်သည်၊ နိုင်ငံတော်၏နိုင်ငံသားအများဆုံးကိုးကွယ်ရာ၊ ဘာသာကြီး ဖြစ်သည့်အားလျော်စွာ နိုင်ငံတော်ဘာသာသာသနာဖြစ်စေရမည်။ "

(ခ) ပုဒ်မခွဲ(၄)နောက်တွင် အောက်ပါကို ပုဒ်မခွဲ(၅) အဖြစ် ထည့်သွင်းရမည်။

" (၅) ပြည်ထောင်စုနိုင်ငံအစိုးရသည်၊ မိမိနှစ်စဉ် သာမန်သုံးငွေ၏ အနည်းဆုံး၅၀ရာခိုင်နှုန်းနှင့် ညီမျှသောငွေကို ဘာသာ သာသနာရေးအတွက် ချီးမြှောက်ထောက်ပံ့ရမည်။

ရှင်းလင်းချက်။ ။ ဘာသာ သာသနာဆိုသည်မှာ ဤပုဒ်မရှိ ပုဒ်မခွဲ(၁)နှင့်(၂)တို့တွင် ဖော်ပြထားသည့် ဗုဒ္ဓဘာသာ သာသနာ၊ အစ္စလာမ်ဘာသာ သာသနာ၊ ခရစ်ယာန်ဘာသာ သာသနာ၊ ဟိန္ဒူဘာသာ သာသနာနှင့် နတ်ကိုးကွယ်သော ဘာသာတို့ကို ဆိုလိုသည်။"

၃။ ။ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ ပုဒ်မ ၂၁ နောက်တွင်၊ အောက်ပါတို့ကို ပုဒ်မ ၂၁-က၊ ၂၁-ခ၊ ၂၁-ဂ နှင့် ၂၁-ဃ အဖြစ် ထည့်သွင်းရမည်။

" ၂၁-က။ ။ ဗုဒ္ဓဘာသာ သာသနာတော်မှာ၊ ပြည်ထောင်စုနိုင်ငံ၏ နိုင်ငံတော် ဘာသာ သာသနာဖြစ်သည်နှင့်အညီ ပြည်ထောင်စုနိုင်ငံအစိုးရသည် -

(က) ပရိယတ္တိသာသနာ၊ ပဋိပတ္တိသာသနာနှင့် ပဋိဝေဓ သာသနာတည်းဟူသောဗုဒ္ဓဘာသာ သာသနာတော် သုံးရပ်ကို စည်ပင်ပြန့်ပွားအောင် ချီးမြှောက်ထောက် ပံ့ရမည်။

(ခ) ဘုရားရတနာ၊ တရားရတနာ၊ သံဃာရတနာ တည်းဟူသော ရတနာသုံးပါးကို ချီးမြှောက်ပူဇော်ရမည်။

(ဂ) အဆိုပါသာသနာသုံးရပ်နှင့် ရတနာသုံးပါးတို့ကို ရေးသားခြင်းအားဖြင့်သော် လည်းကောင်း၊ မြွက်ဆိုခြင်းအားဖြင့်သော်လည်းကောင်း အခြားနည်းအားဖြင့် သော်လည်းကောင်း၊ စော်ကားမှု၊ မဟုတ်မမှန်စွပ်စွဲမှု စသောဘေးရန်အန္တရာယ်ခပ်သိမ်းမှ ကာကွယ်စောင့်ရှောက်ရမည်။

ရှင်းလင်းချက်။ ။ "သံဃာရတနာ" ဆိုသည်မှာ၊ ရဟန်းတော်တစ်ပါးစီ မဟုတ်ဘဲ၊ရဟန်းတော် အားလုံးဂိုဏ်းဂဏမရွေး ပါဝင်သောသံဃာကို ဆိုလိုသည်။"

၂၁-ခ။ ။ ပြည်ထောင်စုနိုင်ငံ အစိုးရသည် -

(က) ဆဋ္ဌသံဂါယနာတင် ပိဋကပါဠိတော် အဋ္ဌကထာနှင့် ဋီကာစာမူများကို ကောင်းစွာထိန်းသိမ်းစောင့်ရှောက် ထားရမည်။

(ခ) ပြည်ထောင်စုနိုင်ငံအတွင်း၊ ထိုပိဋကသုံးပုံပါဋ္ဌိတော် အဋ္ဌကထာနှင့် ဋီကာစာမူ များကိုပုံနှိပ်ကြရာတွင်၊ အမှားအယွင်းမပါရအောင် စည်းကမ်းများသတ်မှတ်၍ ထိုစည်းကမ်းများအတိုင်း လိုက်နာသူများကိုသာ ပုံနှိပ်ခွင့်ပြုရမည်။

၂၁-ဂ။ ။ ပြည်ထောင်စုနိုင်ငံအစိုးရသည်၊ မန္တလေးတောင်ခြေအနီး မဟာလောက မာရဇိန်ကုသိုလ်တော်ဘုရား ပရဝုဏ်အတွင်းရှိ ပဥ္စမသံဂါယနာတင် ပိဋကပါဠိတော်ကျောက်စာများနှင့် ထိုဘုရားအနီး စန္ဒာမုနိဘုရား ပရဝုဏ်အတွင်းရှိ အဋ္ဌကထာနှင့် ဋီကာကျောက်စာများကို ကောင်းမွန်စွာ ထိန်းသိမ်းစောင့်ရှောက် ထားရှိစေရမည်။

၂၁-ဃ။ ။ ပြည်ထောင်စုနိုင်ငံအစိုးရသည်၊ တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် အောက်ပါ ဆရာတော်ကြီးများအား ပင့်ဘိတ်၍ နိုင်ငံတော်ဘာသာ သာသနာအတွက် မိမိ၏ဆောင်ရွက်ခဲ့ပုံများကို တင်ပြရမည့်ပြင် ထိုဆောင်ရွက်ခဲ့ပုံများနှင့် စပ်လျဉ်းသည့် ဆရာတော်ကြီးများ၏ ဝေဘန်ချက်၊ အကြံပေးချက်နှင့် ဩဝါဒများကိုလည်း ကြားနာကြရမည်။

(က) အဘိဓဇမဟာရဋ္ဌဂုရုဆရာတော်ကြီးများ၊

(ခ) အဂ္ဂမဟာပဏ္ဍိတဆရာတော်ကြီးများ၊

(ဂ) နိုင်ငံတော်ဩဝါဒါစရိယ ဆရာတော်ကြီးများနှင့်

(ဃ) နိုင်ငံတော်ဝိနည်းမိုရ် ဆရာတော်ကြီးများ။ ''

၃။ ။ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ ပုဒ်မ ၄၃ နောက်တွင်၊ အောက်ပါတို့ကို ပုဒ်မ ၄၃-က နှင့် ၄၃-ခ အဖြစ် ထည့်သွင်းရမည်။

၄၃-က။ ။ နိုင်ငံတော်သည် ပြည်ထောင်စုနိုင်ငံအတွင်း၊ ရှေးမင်းများတည်ထား ကိုးကွယ်တော်မူခဲ့ကြ၍ မြတ်စွာဘုရား၏ဓါတ်တော်မွေတော်များ၊ ကိန်းဝပ်ရာဟူ၍ သာသနာ့သမိုင်းတွင် ထင်ရှား ကျော်စောသော ရှေးဟောင်းစေတီ၊ ပုထိုးများ၊ စစ်ဘေး၊ သူပုန်ဘေး၊ ငလျင်ဘေး စသောဘေးအန္တရာယ်များကြောင့် ပျက်စီးလျှင်၊ ထိုစေတီ၊ ပုထိုးများကို ပြုပြင်၊ ပြန်လည်တည်ထောင်ရာ၌ ကူညီထောက်ပံ့ရမည်။

၄၃-ခ။ ။ နိုင်ငံတော်သည် ဝိနည်းဒေသနာတော်နှင့် မဆန့်ကျင်စေရန် ပြည်ထောင်စု နိုင်ငံတစ်ဝန်းလုံးတွင်၊ လူပုဂ္ဂိုလ်များအတွက် ဆေးရုံနှင့် တမိုးတထရံ တည်းမဟုတ်မူ၍ ဘုန်းတော်ကြီးများနှင့်အပ်စပ်သော သံဃာ့ဆေးရုံ များ၌၊ ဘုန်းတော်ကြီးများအား ပြုစုကျွေးမွေးရာတွင်လည်း ဝိနည်း ဒေသနာတော်နှင့် မဆန့်ကျင်စေဘဲ ပြုစုကျွေးမွေးရမည်။ ''

## ၁၉၆၁ ခုနှစ်၊ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေကို (စတုတ္ထပြင်ဆင်ချက်) အက်ဥပဒေ။

(၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၂၀။)

အောက်ပါအတိုင်း အက်ဥပဒေအဖြစ် ပြဋ္ဌာန်းလိုက်သည်။

၁။ ။ ဤအက်ဥပဒေကို၊ ၁၉၆၁ ခုနှစ်၊ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ(စတုတ္ထပြင်ဆင်ချက် ) အက်ဥပဒေဟု ခေါ်တွင်စေရမည်။

၂။ ။(၁) ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေပုဒ်မ ၂၀ တွင် " လွတ်လပ်စွာယူဆနိုင်သော အခွင့်အရေး၊ လွတ်လပ်စွာကိုးကွယ်ဆောက်တည်နိုင်သောအခွင့်အရေး" ဆိုသည့်စကားရပ်အစား၊ "လွတ်လပ်စွာ ယူဆနိုင်သောအခွင့်အရေး၊ လွတ်လပ်စွာ ကိုးကွယ်ဆောက်တည်နိုင်သော အခွင့်အရေး၊ လွတ်လပ်စွာသင်ကြားနိုင်သောအခွင့်အရေး " ဆိုသည့်စကားရပ်ကို ထည့်သွင်းရမည်။

(၂) အောက်ပါကို ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေပုဒ်မ ၂၀၏ ခြွင်းချက်အဖြစ် ထည့်သွင်းရမည်။

" ခြွင်းချက်။ ။ သို့ရာတွင် မိဘ၊ သို့မဟုတ် အုပ်ထိန်းသူတို့၏စာဖြင့်ရေးသားထားသော ကြိုတင်သဘောတူညီချက်ကိုမရရှိဘဲ၊ ကျောင်းများတွင် မည်သည့်အသက် မပြည့်သေးသူကိုမျှ ၎င်း၏မိဘကိုးကွယ်သည့်ဘာသာမဟုတ်သည့် မည်သည့် ဘာသာကိုမျှ သင်ကြားခြင်းမပြုရ။ "

၃။ ။ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေပုဒ်မ ၂၁၊ ပုဒ်မခွဲ(၅)နောက်တွင် အောက်ပါကို ပုဒ်မခွဲ (၆)အဖြစ် ထည့်သွင်းရမည်။

"(၆) ဘာသာ သာသနာတို့ကို ရေးသားခြင်းအားဖြင့်သော်လည်းကောင်း၊ မြွက်ဆို ခြင်းအားဖြင့်သော်လည်းကောင်း၊ အခြားနည်းအားဖြင့်သော်လည်းကောင်း စော်ကားမှု၊ မဟုတ်မမှန်စွပ်စွဲမှု စသော ဘေးရန်အန္တရာယ်ခပ်သိမ်းမှ နိုင်ငံတော်အစိုးရသည် ကာကွယ်စောင့်ရှောက်ရမည်။ "